# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၄၅၆ / ၂၀၁၁ ၂၀၁၁ခုနှစ်၊ဖေဖော်ဝါရီလ [illegible] ရက်

ပြည်ထောင်စု မြန်မာနိုင်ငံတော် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ (၁၀) အရ ဤခွင့်ပြုမိန့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ထုတ်ပေးလိုက်သည်-

(က) ကမကထပြုသူ၏အမည် MR. TAN GHEE KIAT

(ခ) မည်သည့် နိုင်ငံသား MALAYSIAN

(ဂ) နေရပ်လိပ်စာ NO.7, LORONG TEMPINIS, KANAN DUA LUCKY GARDEN BANGSAR , 59100, KUALA LUMPUR , MALAYSIA

(ဃ) ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ PRESTIGE PLATFORM SDN.,BHD, SUITE16-08, LEVEL 16, WISMA UOA II, 21, JALAN PINANG 50450 KUALA LUMPUR , MALAYSIA

(င) ဖွဲ့စည်းရာအရပ် KUALA LUMPUR , MALAYSIA

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်ခွင့်ပြုသည့်အရပ်ဒေသ(များ) ဘုတ်ပြင်းမြို့နယ်၊ မြိတ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီး

(ဇ) နိုင်ငံခြားမတည်ငွေရင်း အမေရိကန်ဒေါ်လာ ၄၀ သန်း

(ဈ) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ကုမ္ပဏီဖွဲ့စည်းပြီး ၆နှစ်အတွင်း

(ည) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၄၀ သန်းနှင့် ညီမျှသော မြန်မာကျပ်ငွေ

(ဋ) ရင်းနှီးမြှုပ်နှံခွင့်ပြုသည့် သက်တမ်း ၃၀ နှစ်

(ဌ) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် စီးပွားရေး အဖွဲ့အစည်းအမည် MYANMAR ROYAL PRESTIGE PLANTATION CO., LTD.

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်

နောက်ဆက်တွဲ-က

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ၁၁/ MRPP ( ၂၁ /၂၀၁၁)
ရက်စွဲ၊ ၂၀၁၁ခုနှစ် ၊ဇန်နဝါရီလ ၁၅ ရက်

အကြောင်းအရာ။ <u>Myanmar Royal Prestige Plantation Co., Ltd. (MRPP) တည်ထောင်၍ တနင်္သာရီတိုင်း ဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံး ဒေသတွင် ဆီအုန်း (၃၀၀၀၀) ဧက စိုက်ပျိုးရန်အဆိုပြုလွှာတင်ပြခြင်းကိစ္စ။</u>

ရည်ညွှန်းချက်။ ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၁၂.၁.၂၀၁၁)ရက်နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် အစည်းအဝေးအမှတ်စဥ်(၁/၂၀၁၁)မှတ်တမ်းကောက်နုတ်ချက်။

၁။ Myanmar Royal Prestige Plantation Co., Ltd. (MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံး ဒေသတွင် ဆီအုန်း (၃၀၀၀၀) ဧက စိုက်ပျိုးရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုလွှာတင်ပြခြင်းကိစ္စနှင့် ပတ်သက်၍ ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၁၂.၁.၂၀၁၁) ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် အစည်းအဝေးအမှတ်စဥ်(၁/၂၀၁၁)မှတ်တမ်းကောက်နုတ်ချက်အရ၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ကြောင်း ရည်ညွှန်းပါစာဖြင့် အကြောင်းကြား လာပါသည်။

၂။ သို့ဖြစ်ပါ၍ အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြနိုင်ရန်အတွက် အဆိုပြုလွှာ မိတ္တူ (၁၅) စုံ ကို Adobe Acrobat Reader (Pdf) file နှင့်အတူ ပူးတွဲပေးပို့ အပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)
(လှရွှေ၊ရုံးအဖွဲ့မှူး)

**<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။</u>**

မိတ္တူ - ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း။
- ဒုတိယဦးဆောင်ညွှန်ကြားရေးမှူး၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း)
- ရုံးလက်ခံ။/မျှောစာတွဲ။

နောက်ဆက်တွဲ(က)

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ၁၁/ MRPP ( ၁၀၂၈ /၂၀၁၀)
ရက်စွဲ၊ ၂၀၁၀ပြည့်နှစ် ဒီဇင်ဘာလ ၃၀ ရက်

အကြောင်းအရာ။ Myanmar Royal Prestige Plantation Co., Ltd. (MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း (၃၀,၀၀၀)ဧက စိုက်ပျိုးရန် အဆိုပြုလွှာ တင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၇.၁၂.၂၀၁၀) ရက်စွဲပါစာ အမှတ်၊ ရက-၆(ခ)နှ-၄၆၁(၂၀၁၀/၂၀၆၂၃)

၁။ Myanmar Royal Prestige Plantation Co., Ltd. (MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း (၃၀,၀၀၀) ဧက စိုက်ပျိုးရန် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန မှ အဆိုပြုလွှာ တင်ပြခြင်းကိစ္စ နှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇-၁၂-၂၀၁၀)ရက်နေ့တွင် ကျင်းပခဲ့သော (၄၂/၂၀၁၀) ကြိမ်မြောက်အစည်းအဝေးမှ ကုန်သွယ်မှု မူဝါဒကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ကြောင်း ရည်ညွှန်းပါစာဖြင့် အကြောင်း ကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ ကုန်သွယ်မှု မူဝါဒကောင်စီသို့ ဆက်လက်တင်ပြနိုင်ရေးအတွက် အဆိုပြုလွှာ မိတ္တူ (၃၀) စုံ ကို Adobe Acrobat Reader (Pdf) file နှင့်အတူ ပူးတွဲ ပေးပို့အပ်ပါသည်။

ဝန်ကြီး (ကိုယ်စား)
(လှရွှေ၊ ရုံးအဖွဲ့မှူး)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။

မိတ္တူ - ဦးဆောင်ညွှန်ကြားရေးမှူး၊မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း။
- ဒုတိယဦးဆောင်ညွှန်ကြားရေးမှူး၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း)
- ရုံးလက်ခံ။/မျှောစာတွဲ။

N.N.H (SI)(29-12-2010)

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၁/ MRPP( ၉၇၃ /၂၀၁၀)
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ ဒီဇင်ဘာလ ၃ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ မလေးရှားနိုင်ငံ Prestige Platform Sdn. Bhd. နှင့် မြန်မာနိုင်ငံတော်ဝင်ရွှေပုလဲ စက်မှုလုပ်ငန်းကုမ္ပဏီတို့ ပူးပေါင်း၍ ဖက်စပ်ကုမ္ပဏီ Myanmar Royal Prestige Plantation Co., Ltd. (MRPP) တည်ထောင်ကာတနင်္သာရီတိုင်းဒေသကြီးမြိတ်ခရိုင်၊ဘုတ်ပြင်းမြို့နယ်၊မနိုးရုံးဒေသတွင်ဆီအုန်း (၃၀,၀၀၀)ဧကစိုက်ပျိုးရန် အဆိုပြုလွှာ တင်ပြခြင်းကိစ္စ။

နိဒါန်း

၁။ မြန်မာနိုင်ငံသားပိုင် တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီနှင့် မလေးရှားနိုင်ငံမှ Prestige Plantation Sdn. Bhd. တို့ပူးပေါင်း၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊မနိုးရုံးဒေသရှိမြေ (၃၀,၀၀၀) ဧကပေါ်တွင် ဆီအုန်းစိုက်ပျိုးထုတ်လုပ်ရေး လုပ်ငန်းအား ဆောင်ရွက်ရန်အတွက် အဆိုပါ မြန်မာကုမ္ပဏီ နှင့် မလေးရှား ကုမ္ပဏီတို့အကြား (၂၀း၈၀) ရင်းနှီးမြှုပ်နှံမှုအချိုးဖြင့် Myanmar Royal Prestige Plantation Co., Ltd. (MRPP) ဖက်စပ်ကုမ္ပဏီအား တည်ထောင်ကာ ဆီအုန်းစိုက်ပျိုးခြင်းနှင့် စားအုန်းဆီထုတ်လုပ်ခြင်း လုပ်ငန်းများကို နိုင်ငံတော်နှင့် Product Sharing စနစ်ဖြင့် ဆောင်ရွက်ရန်စီစဉ်လျက်ရှိပါသည်။

၂။ မြန်မာကုမ္ပဏီနှင့် ဖက်စပ် ဆောင်ရွက်မည့် မလေးရှားနိုင်ငံ Prestige Plantation Sdn. Bhd. ကုမ္ပဏီသည် မလေးရှားနိုင်ငံရှိ ဆီအုန်း စိုက်ပျိုးရေးနှင့် စားအုန်းဆီ ထုတ်လုပ်ရေးလုပ်ငန်းကိုအဓိကလုပ်ကိုင်သည့် Glenealy Plantation (Malaya) Bhd. ကုမ္ပဏီကြီးအောက်မှ Investment Holding အဖြစ် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းများ လုပ်ကိုင်နိုင်ရန် သီးခြားတည်ထောင်ထားသည့်ကုမ္ပဏီတစ်ခုဖြစ်ပါသည်။ Glenealy Plantation (Malaya) Bhd. ကုမ္ပဏီသည် နှစ်ပေါင်း (၅၀)ကျော်သက်တမ်းရှိ၍ စျေးကွက် ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ (၅၈၂.၆) သန်းရှိသည့် ခိုင်မာသော ကုမ္ပဏီကြီးတစ်ခုဖြစ်ကြောင်း မလေးရှားနိုင်ငံမြန်မာသံရုံးမှ တင်ပြထားပါသည်။

ရည်ရွယ်ချက်

၃။ အဆိုပါ Myanmar Royal Prestige Plantation Co., Ltd. (MRPP) ဖက်စပ်ကုမ္ပဏီအနေဖြင့် ဖော်ပြပါစီမံကိန်းမှ စိုက်ပျိုးထွက်ရှိလာမည့် စားအုန်းဆီကြမ်းနှင့် ဆီသန့်များကို ပြည်တွင်းပြည်ပ ဈေးကွက်သို့ ဖြန့်ဖြူးရောင်းချခြင်းဖြင့် နိုင်ငံတော်၏ စားသုံးဆီလိုအပ်ချက်ကို ဖြည့်ဆည်းပေးမည့်အပြင် ဒေသခံပြည်သူလူထုများအတွက် အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရန် ရည်ရွယ် ဆောင်ရွက်ခြင်းဖြစ်ပါသည်။

ရင်းနှီးမြှုပ်နှံမှုပုံစံနှင့်ပမာဏ

၄။ ဖက်စပ်စီမံကိန်း၏ ကနဦး ရင်းနှီးမြှုပ်နှံမှု (Initial Investment) မှာ အမေရိကန်ဒေါ်လာ (၄၀) သန်း ဖြစ်၍ စုစုပေါင်း ရင်းနှီး မြှုပ်နှံမှု (Total Investment) မှာ အမေရိကန်ဒေါ်လာ သန်း (၈၀) ဖြစ်ပါသည်။

ရင်းနှီးမြှုပ်နှံဆောင်ရွက်မည့်ကာလ

၅။ စီမံကိန်း၏ ကနဦးသက်တမ်းကာလမှာ (၃၅) နှစ်ဖြစ်ပြီး နှစ်ဘက်သဘောတူညီချက်ဖြင့် နောက်ထပ် (၂၅) နှစ် သက်တမ်းတိုးမြှင့် ဆောင်ရွက်မည်ဖြစ်ပါသည်။

မြေယာဖော်ထုတ်စိုက်ပျိုးမည့်အစီအစဉ်

၆။ (က) Myanmar Royal Prestige Plantation Co., Ltd. (MRPP) ဖက်စပ်ကုမ္ပဏီသည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ဘုတ်ပြင်းမြို့နယ် မနိုးရုံးဒေသရှိမြေ (၅၀,၀၀၀) ဧကအနက် စိုက်ပျိုးမြေ ဖော်ထုတ်နိုင်မည့် မြေ (၃၀,၀၀၀)ဧကကို အောက်ပါအတိုင်း နှစ်အလိုက် ဖော်ထုတ်စိုက်ပျိုးသွားရန် စီစဉ်ထားပါသည်-

| နှစ် | ဖော်ထုတ်စိုက်ပျိုးမည့် ဧရိယာ |
|---|---|
| ပထမနှစ် | ၁,၀၀၀ ဧက |
| ဒုတိယနှစ် | ၃,၀၀၀ ဧက |
| တတိယနှစ် | ၅,၀၀၀ ဧက |
| စတုတ္ထနှစ် | ၆,၀၀၀ ဧက |
| ပဉ္စမနှစ် | ၇,၀၀၀ ဧက |
| ဆဋ္ဌမနှစ် | ၈,၀၀၀ ဧက |
| စုစုပေါင်း | ၃၀,၀၀၀ ဧက |

(ခ) တစ်နာရီတန်(၆၀)ကျ ဆီသန့်စက်ရုံကို တတိယနှစ်တွင် စတင်တည်ဆောက်ကာ စတုတ္ထနှစ်တွင် ဆီကြမ်း (CPO) စတင် ထုတ်လုပ်ရန် ရည်ရွယ်ထားပါသည်။

## ကနဦးရင်းနှီးမြှုပ်နှံမည့် အစီအစဉ်

၇။ Myanmar Royal Prestige Plantation Co., Ltd. (MRPP) ဖက်စပ်ကုမ္ပဏီ အနေဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ် မနိုးရှုံးဒေသတွင် ကနဦး ရင်းနှီးမြှုပ်နှံမည့် အမေရိကန် ဒေါ်လာ (၄၀) သန်းကို ဆီအုန်းစိုက်ပျိုးကာလ (၅) နှစ် အတွက် အောက်ပါအတိုင်း ရင်းနှီး မြှုပ်နှံ ဆောင်ရွက်မည်ဖြစ်ပါသည်။

| စဉ် | အကြောင်းအရာ | အမေရိကန် ဒေါ်လာ | ညီမျှသည့် မြန်မာကျပ် |
|---|---|---|---|
| (က) | နိုင်ငံခြားငွေ | ၃၂၆,၂၀၀ | ၁,၉၅၇,၂၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ တင်သွင်းခြင်း | ၁၂,၇၉၈,၀၀၀ | ၇၆,၇၈၈,၀၀၀ |
| (ဂ) | ကုန်ကြမ်းပစ္စည်းနှင့်အခြား ဆက်စပ်ပစ္စည်းများ | ၂၆,၈၇၅,၈၀၀ | ၁၆၁,၂၅၄,၈၀၀ |
| (ဃ) | ကျွမ်းကျင်မှုနည်းပညာ | - | - |
| | စုစုပေါင်း | ၄၀,၀၀၀,၀၀၀ | ၂၄၀,၀၀၀,၀၀၀ |

## ထွက်ကုန်အပေါ် အကျိုးအမြတ်ခွဲဝေမှုစနစ် (Product Sharing System)

၈။ Myanmar Royal Prestige Plantation Co., Ltd. (MRPP) ဖက်စပ်ကုမ္ပဏီ အနေဖြင့် ထွက်ရှိလာမည့်စားအုန်းဆီကြမ်းနှင့် ဆီချောများကို နိုင်ငံတော်ကိုယ်စား မြေရှင် အဖြစ် ဆောင်ရွက်မည့် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့ စက်မှုသီးနှံဖွံ့ဖြိုး ရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန(နှစ်ရှည်ပင်လုပ်ငန်း)သို့ ဆီသီး ခိုင်စတင်ထွက်ရှိလာသည်မှစ၍အောက်ပါအစီအစဉ်အတိုင်းခွဲဝေပေးရန်ဖြစ်ပါသည်-

| စဉ် | ကာလ | ထွက်ရှိမှုအပေါ် ပေးရန်အချိုး | ရရှိနိုင်မည့် မျှော်မှန်း ထွက်ကုန်ပမာဏ (တန်) |
|---|---|---|---|
| (က) | ဆီသီးခိုင်ထွက်ရှိလာချိန်မှ(၁၀)နှစ်ထိ | (၂.၅%) | ဆီကြမ်း (၃,၇၁၅) |
| (ခ) | (၁၁)နှစ်မှ (၁၄)နှစ်ထိ | (၅%) | ဆီကြမ်း (၁၁,၈၇၀) |
| (ဂ) | (၁၅)နှစ်မှ(၁၈)နှစ်ထိ | (၇%) | ဆီကြမ်း (၁၈,၉၂၈) (သို့မဟုတ်) ဆီချော (၁၄,၁၉၆) |
| (ဃ) | (၁၉)နှစ်မှ(၂၂)နှစ်အထိ | (၅%) | ဆီကြမ်း (၁၃,၈၂၀) (သို့မဟုတ်) ဆီချော (၁၀,၃၆၅) |
| (င) | (၂၃)နှစ်မှစ၍နောက်ပိုင်း | (၂.၅%) | ဆီကြမ်း (၁၅,၂၃၀) (သို့မဟုတ်) ဆီချော (၁၁,၄၂၃) |

၉။ အထက်ပါအတိုင်း ထွက်ကုန်အပေါ် အကျိုးအမြတ်ခွဲဝေမှုစနစ်ဖြင့် ဆောင်ရွက်ရန် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း) နှင့် Myanmar Royal Prestige Plantation Co., Ltd. (MRPP) တို့အကြား ချုပ်ဆိုမည့် Product Sharing Agreement သဘောတူစာချုပ် (မူကြမ်း)အပေါ် ရှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့်အခွန် ဝန်ကြီးဌာနနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာနတို့၏ သဘောထားမှတ်ချက်များ (နောက်ဆက်တွဲ-က) နှင့်အညီ ပြင်ဆင်ရေးဆွဲထားသည့် စာချုပ် (မူကြမ်း) အား (နောက်ဆက်တွဲ-ခ) ဖြင့် တင်ပြအပ်ပါသည်။

**နိုင်ငံတော်အတွက်ရရှိမည့် အကျိုးကျေးဇူးများ**

၁၀။ Myanmar Royal Prestige Plantation Co., Ltd. (MRPP) သည် Product Sharing စနစ်ဖြင့် မြန်မာနိုင်ငံတွင် ဆီအုန်းစိုက်ပျိုးထုတ်လုပ်သည့်လုပ်ငန်းကို (၃၅) နှစ်ကြာ ဖက်စပ်ရင်းနှီးမြှုပ်နှံဆောင်ရွက်ခြင်းအားဖြင့် နိုင်ငံတော်မှ စီမံကိန်းကာလအတွင်း အမေရိကန်ဒေါ်လာ (၄၂.၆၉၆) သန်းခန့် ရရှိနိုင်မည်ဖြစ်သည့်အပြင် အကြမ်းဖျင်း တွက်ချက်မှုအရ ကုန်သွယ်လုပ်ငန်းခွန်နှင့်ဝင်ငွေခွန် စုစုပေါင်း အမေရိကန် ဒေါ်လာ (၁၅၀) သန်း ခန့်ရရှိနိုင်မည်ဖြစ်ခြင်း၊ ပြည်တွင်းစားသုံးဆီဖူလုံရေးကို တဖက်တစ်လမ်းမှ ဖြည့်ဆည်းပေးနိုင်ခြင်း၊ မြန်မာနိုင်ငံသို့ နိုင်ငံခြားရင်းနှီးမြှုပ်နှံ ဝင်ရောက်လာခြင်း၊ ဆီအုန်းစိုက်ပျိုးထုတ်လုပ်မှုနည်းပညာဆိုင်ရာကျွမ်းကျင်မှုများ ရရှိလာနိုင်ခြင်းတို့အပြင် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများရရှိနိုင်ခြင်းစသည့် အကျိုးကျေးဇူးများရရှိနိုင်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ် မနိုးရုံးဒေသရှိ မြေဧရိယာဧက (၅၀,၀၀၀) အနက် ဆီအုန်းစိုက်ပျိုးနိုင်မည့် ဧက (၃၀,၀၀၀) ကို Myanmar Royal Prestige Plantation Co., Ltd. (MRPP) ဖက်စပ်ကုမ္ပဏီနှင့် လယ်ယာစိုက်ပျိုးရေး နှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း) တို့အကြား ဆီအုန်းစိုက်ပျိုး၍ စားအုန်းဆီ ထုတ်လုပ်ခြင်းလုပ်ငန်းကို Product Sharing စနစ်အရ ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပုံစံဖြင့်ဆောင်ရွက်ရန်တင်ပြသည့် ကိစ္စ အားသဘောတူ/မတူ။

**လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ထောက်ခံချက်**

၁၂။ အထက် အပိုဒ် ၁၁။ ပါ အဆိုပြု တင်ပြချက်ကို သဘောတူ သင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( ဌေး ဦး )
ဝန် ကြီး

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။**

(၄၂/၂၀၁၀)ကော်မရှင်အစည်းအဝေး(စားပွဲတင်)

အကြောင်းအရာ။ ။ Myanmar Royal Prestige Plantation Co., Ltd. (MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသ တွင် ဆီအုန်း (၃၀,၀၀၀ ဧက) စိုက်ပျိုးရန် အဆိုပြုလွှာ တင်ပြခြင်း ကိစ္စ။

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | Myanmar Royal Prestige Plantation Co., Ltd. (MRPP) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဌာန် | -ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Prestige Platform Sdn Bhd(Malaysia) (၈၀%)<br>- တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် (မြန်မာနိုင်ငံသား) (၂၀%) |
| ၃။ | လုပ်ငန်းအမျိုးအစား | - ဆီအုန်း စိုက်ပျိုးခြင်းနှင့် သန့်စင်ပြီးစားအုန်းဆီ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၄။ | တည်နေရာ | - တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသ |
| ၅။ | ရင်းနှီးမြှုပ်နှံမှု | - မြန်မာ ကျပ် (၂၂.၅၀)သန်း<br>နိုင်ငံခြားUS$၄၀.၀ သန်း(ချေးငွေ US$ ၂၅.၀ သန်းအပါအဝင်) |
| ၆။ | ထည့်ဝင်သည့်အမျိုးအစား | **US $ (သန်း)** |
| | ငွေသား | ၀.၃၂၆ |
| | စက်ပစ္စည်းကိရိယာတန်ဆာပလာ | ၁၂.၇၉၈ |
| | ကုန်ကြမ်းပစ္စည်းနှင့် အခြားဆက်စပ်ပစ္စည်းများ | ၂၆.၈၇၆ |
| | **စုစုပေါင်း** | ၄၀.၀၀၀ |
| ၇။ | လုပ်ငန်းသက်တမ်း | - ၃၅ နှစ် (တိုးချဲ့ကာလ ၂၅ နှစ် ) |
| ၈။ | တည်ဆောက်ရေးကာလ | - ၆ နှစ် |
| ၉။ | မြေဧရိယာ | - ၃၀,၀၀၀ ဧက |
| ။ | မြေပိုင်ဆိုင်မှု | - လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊<br>- မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊<br>- နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန(နှစ်ရှည်ပင်လုပ်ငန်း) |
| ၁၁။ | ရောင်းချမည့်နည်းစနစ် | |
| | ပြည်ပ | - ၅၀ % |
| | ပြည်တွင်း | - ၅၀ % |
| ၁၂။ | ဝင်ငွေ(ပုံမှန်နှစ်) | |
| | ပြည်ပ | - US$ ၁၅.၉ သန်း |
| | ပြည်တွင်း | - ကျပ် ၁၅.၉ သန်း |

| | | |
|---|---|---|
| ၁၃။ | အသားတင်အမြတ် | - US$ ၁၈.၀၅၉ သန်း |
| ၁၄။ | အရင်းကြေကာလ | - ၁၁ နှစ် ၆ လ |
| ၁၅။ | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၃၃ % |
| ၁၆။ | စီမံကိန်းကာလ အတွင်း နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် | - US$ ၄၂.၆၉၆ သန်း |
| | ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | - US$ ၁၅၀.၀၀ သန်း |
| ၁၇။ | ဝန်ထမ်းအင်အား | - လုပ်ငန်းသဘာဝအရ နှစ်အလိုက် ဖော်ပြထားပါသည်။ |
| | စုစုပေါင်း | - ၂၀၉ ဦး |
| | ပြည်တွင်း | - ၂၀၀ ဦး |
| | ပြည်ပ | - ၉ ဦး |
| ၁၈။ | အခြား | - Myanmar Royal Prestige Plantation Co., Ltd. (MSPP) သည် ထွက်ရှိလာမည့် စားအုန်းဆီကြမ်းနှင့် ဆီချောများကို မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်းနှင့် နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေး လုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း)သို့ ဆီသီးခိုင်စတင်ထွက်ရှိလာသည် မှစ၍ အောက်ပါအစီအစဉ် အတိုင်း ခွဲဝေပေးရန် ဖြစ်ပါသည်။<br>(က) ဆီသီးခိုင်ထွက်ရှိလာချိန်မှ(၁၀)နှစ်အထိ ၂.၅%၊<br>ဆီကြမ်း ၃,၇၁၅ တန်<br>(ခ) စီမံကိန်းကာလ (၁၁)နှစ်မှ (၁၄)နှစ်အထိ ၅%<br>ဆီကြမ်း ၁၁,၈၇၀ တန်<br>(ဂ) စီမံကိန်းကာလ (၁၅)နှစ်မှ (၁၈)နှစ်အထိ ၇%<br>ဆီကြမ်း ၁၈,၉၂၈ တန်(သို့) ဆီချော ၁၄,၁၉၆ တန်<br>(ဃ) စီမံကိန်းကာလ (၁၉)နှစ်မှ (၂၂)နှစ်အထိ ၅%<br>ဆီကြမ်း ၁၃,၈၂၀ (သို့) ဆီချော ၁၀,၃၆၅ တန်<br>(င) စီမံကိန်းကာလ (၂၃)နှစ်မှ စ၍နောက်ပိုင်း ၂.၅%<br>ဆီကြမ်း ၁၅,၂၃၀ (သို့) ဆီချော ၁၁,၄၂၃ တန်<br>- Prestige Platform Sdn Bhd (Malaysia) ၏ ငွေရေးကြေးရေး အထောက်အထားအဖြစ် မလေးရှားနိုင်ငံ OCBC ဘဏ်တွင် ၂၀၀၉ ခုနှစ် အောက်တိုဘာလမှစတင်၍ ငွေစာရင်း ဖွင့်လှစ် ထားပြီး ငွေကြေးအားဖြင့် ခိုင်မာသော ကုမ္ပဏီဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | | | |
|---|---|---|---|
| | | | - တော်ဝင်ရွှေပုလဲကုမ္ပဏီလီမိတက် ၏ ငွေရေးကြေးရေး အထောက် အထားအဖြစ် မြန်မာ့နိုင်ငံခြား ကုန်သွယ်မှုဘဏ် တွင် (၂-၁၂-၂၀၁၀) နေ့၌ စာရင်း အမှတ် IDA 0400985 ဖြင့် အမေရိကန် ဒေါ်လာ ၉၅,၅၁၉.၂၁ ရှိပါကြောင်း ဘဏ်စာရွက် အထောက်အထားကို တင်ပြထားပါသည်။<br><br>- တင်သွင်းမည့် စက်ပစ္စည်းများတွင် Dumptruck (၈) စီး၊ Toyota 4 x 4 (၆) စီး၊ Toyota Landcrusiser/ Parado (၂) စီး၊ Generator (500 KVA) 1 Unit၊ Generator (250 KVA) 2 Unit နှင့် Oil Palm Mill Machinery 1 Unit တို့ ပါဝင်ပါသည်။ |

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက - ၆(ခ)/န- ၄၆၀/၂၀၁၁( ၀၁၇၁ )

**Myanmar Royal Prestige Plantation Co., Ltd.(MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း (၃၀,၀၀၀ ဧက) စိုက်ပျိုးရန် အဆိုပြုလွှာ တင်ပြခြင်းကိစ္စ။**

**အကျဉ်းချုပ်။** ။ မြန်မာနိုင်ငံသားပိုင် တော်ဝင်ရွှေပုလဲ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ ၂၀% နှင့် မလေးရှားနိုင်ငံမှ Prestige Platform Sdn.Bhd. မှ ၈၀% တို့ ဖက်စပ်ပြု၍ Myanmar Royal Prestige Plantation Co., Ltd. (MRPP) ဖက်စပ်ကုမ္ပဏီ တည်ထောင်ကာ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင် ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသရှိ မြေဧက (၃၀,၀၀၀) တွင် ဆီအုန်း စိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ခြင်းလုပ်ငန်းများကို မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေး လုပ်ငန်းဌာန (နှစ်ရှည်ပင် လုပ်ငန်း) နှင့် Product Sharing စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တင်ပြလာပါသည်။

လုပ်ငန်း၏ ကနဦး ရင်းနှီးမြှုပ်နှံမှုမှာ US$ ၄၀ သန်း ဖြစ်၍ ချေးငွေ US$ ၂၅ သန်း ပါဝင်ပါသည်။ ၎င်းတွင် ငွေသား US $ ၀.၃၂၆ သန်း၊ စက်ပစ္စည်းကိရိယာ တန်ဆာပလာ US $ ၁၂.၇၉၈ သန်း၊ ကုန်ကြမ်းပစ္စည်း၊ ကျွမ်းကျင်မှုနည်းပညာနှင့် အခြားဆက်စပ်ပစ္စည်းများ US $ ၂၆.၈၇၆ သန်း တို့ ပါဝင်ပါသည်။

လုပ်ငန်းစီမံကိန်း၏ ကနဦးသက်တမ်းကာလမှာ (၃၅)နှစ်ဖြစ်ပြီး နှစ်ဖက် သဘောတူညီချက်ဖြင့် နောက်ထပ်(၂၅)နှစ် သက်တမ်းတိုးမြှင့် ဆောင်ရွက်ရန် ဖြစ်ပါသည်။ စိုက်ပျိုးရေးကာလ (တည်ဆောက်ရေးကာလ)(၆)နှစ် ဖြစ်ပါသည်။

စားအုန်းဆီရောင်းဈေးနှုန်းမှာ ၁ တန်လျှင် US $ ၅၀၀ ဖြစ်ပါသည်။ တစ်နှစ်ပျမ်းမျှ ထုတ်လုပ်မှုမှာ ၄၄,၀၅၇ တန် ဖြစ်ပါသည်။ ထွက်ရှိလာသော သန့်စင်ပြီး စားအုန်းဆီ ချောများကို ပြည်တွင်းတွင် ၅၀% နှင့် ပြည်ပ သို့ ၅၀% တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလ (၁၁) နှစ် (၆)လ ဖြစ်ပြီး အရင်းအနှီးပေါ် အကျိုး အမြတ်ပြန်ပေါ်နှုန်း IRR မှာ ၃၃ % ဖြစ်ပါသည်။

ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်နိုင်ငံတော်မှစီမံကိန်းကာလအတွင်း US $ (၄၂.၆၉၆)သန်း ရရှိနိုင်မည် ဖြစ်သည့်အပြင် ခန့်မှန်းခြေအားဖြင့် ကုန်သွယ်လုပ်ငန်းခွန်နှင့် ဝင်ငွေခွန်စုစုပေါင်း US$ (၁၅၀)သန်း ခန့် ရရှိနိုင်မည်ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်း၏ Product Sharing စာချုပ်အပေါ် ရှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနနှင့် နိုင်ငံခြားစီးပွား ဆက်သွယ်ရေးဦးစီးဌာနတို့၏ သဘောထားမှတ်ချက်များ နှင့် အညီ ပြင်ဆင်ထားပါသည်။ ထို့ပြင် တနင်္သာရီတိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ဆီအုန်းစိုက်ပျိုးထုတ်လုပ်မှုလုပ်ငန်းအတွက် ကန့်ကွက်ရန်မရှိပါကြောင်း၊ တနင်္သာရီတိုင်း သစ်တော ဦးစီးဌာနမှလည်း သဘာဝပတ်ဝန်းကျင်အား ထိခိုက်ပျက်စီးစေခြင်းမရှိလျှင် သစ်တောရေးရာ ဝန်ကြီးဌာနမှ ခွင့်ပြုနိုင်ကြောင်း၊ မလေးရှားနိုင်ငံဆိုင်ရာ မြန်မာသံရုံးမှ Prestige Platform Sdn.Bhd. သည် မလေးရှားနိုင်ငံတွင် တရားဝင်မှတ်ပုံတင်ထားသည့် ကုမ္ပဏီဖြစ်ပါကြောင်းနှင့် ခိုင်မာသော ကုမ္ပဏီကြီးတစ်ခု ဖြစ်ပါကြောင်း၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်းမှလည်း မြေယာ ကြိုတင် လုပ်ကိုင်ခွင့် ရရှိပြီးဖြစ်၍ ဆက်လက် ထောက်ခံပါကြောင်း၊ ကျေးတိုင်နှင့် မြေစာရင်း ဦးစီးဌာနမှလည်း မြေယာပြင်ဆင်ခြင်းနှင့် ဆီအုန်းပျိုးခင်းများ စိုက်ပျိုးလုပ်ကိုင်ရေးအတွက် မြေပေးနိုင်ပါကြောင်း၊ တနင်္သာရီတိုင်း မြေစာရင်းဦးစီးဌာနမှလည်း ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား မှတ်ချက်များဖြင့် တင်ပြထားပါသည်။

လုပ်သားများခန့်ထားရာတွင် လုပ်ငန်းသဘာဝအရ နှစ် အလိုက် ဖော်ပြထားပြီး ပထမနှစ်တွင် ပြည်တွင်းမှ ၂၀၀ဦး နှင့် ပြည်ပမှ ၉ ဦး စုစုပေါင်း ၂၀၉ ဦး ခန့်ထားရန် လိုအပ်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

Prestige Platform Sdn.Bhd သည် မလေးရှားနိုင်ငံတွင် ကုမ္ပဏီအမှတ် ၈၆၄၇၆၉ - P ဖြင့် ဖွဲ့စည်းထားသည့် ကုမ္ပဏီဖြစ်ပြီး ကုမ္ပဏီ၏လိပ်စာမှာ မလေးရှားနိုင်ငံ၊ Suite 16-08, Level 16, Wisma UOA II, No.21 Jalan Pinang, 50450 Kuala Lumpur ဖြစ်ကြောင်း၊ ငွေရေးကြေးရေး အထောက်အထားအဖြစ် မလေးရှားနိုင်ငံ OCBC Bank တွင် ၂၀၀၉ ခုနှစ် အောက်တိုဘာလမှ စတင်၍ ငွေစာရင်း ဖွင့်လှစ်ထားပြီး ငွေကြေးအားဖြင့် ခိုင်မာသော ကုမ္ပဏီ ဖြစ်ကြောင်း ထောက်ခံတင်ပြထားပါသည်။

တော်ဝင်ရွှေပုလဲကုမ္ပဏီလီမိတက်၏ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာ့ နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် (၂-၁၂-၂၀၁၀)နေ့၌ စာရင်းအမှတ် IDA 0400985 ဖြင့် US $ ၉၅,၅၁၉.၂၁ ရှိပါကြောင်း ဘဏ်စာရွက်အထောက်အထားကို တင်ပြထားပါသည်။

အဆိုပြုချက်ကို ကော်မရှင်၏ (၄၂/၂၀၁၀) (၁၇-၁၂-၂၀၁၀) အစည်းအဝေးသို့တင်ပြခဲ့ရာ အစည်းအဝေးမှ ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှု ခံယူရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။

**<u>ဆုံးဖြတ်ရန်အချက်</u>**

(က) Myanmar Royal Prestige Plantation Co., Ltd. တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း စိုက်ပျိုးခြင်း နှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကို သဘောတူ - မတူ။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ - မတူ။

(ဂ) သဘောတူခွင့်ပြုပါလျှင် အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် သဘောတူ - မတူ။

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက - ၆(ခ)/န- ၄၆၀/၂၀၁၁( ၀၁၇၃ )
ရက်စွဲ ၊ ၂၀၁၁ ခုနှစ်၊ ဇန်နဝါရီလ ၇ ရက်။

**ကုန်သွယ်မှုမူဝါဒကောင်စီသို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ ။ Myanmar Royal Prestige Plantation Co., Ltd.(MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း (၃၀,၀၀၀ ဧက) စိုက်ပျိုးရန် အဆိုပြုလွှာ တင်ပြခြင်းကိစ္စ။

၁။ မြန်မာနိုင်ငံသားပိုင် တော်ဝင် ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်မှ ၂၀% နှင့် မလေးရှားနိုင်ငံမှ Prestige Platform Sdn.Bhd. မှ ၈၀% တို့ ဖက်စပ်ပြု၍ Myanmar Royal Prestige Plantation Co., Ltd.(MRPP) ဖက်စပ်ကုမ္ပဏီ တည်ထောင်ကာ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင် ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသရှိ မြေဧက (၃၀,၀၀၀) တွင် ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ခြင်းလုပ်ငန်းများကို မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန(နှစ်ရှည်ပင်လုပ်ငန်း) နှင့် Product Sharing စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ရွှေနေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန၊ တနင်္သာရီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၊ တနင်္သာရီတိုင်း သစ်တောဦးစီးဌာန၊ နိုင်ငံခြားရေးဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန၊ ကျေးတိုင်နှင့်မြေစာရင်းဦးစီးဌာန၊ တနင်္သာရီတိုင်း မြေစာရင်းဦးစီးဌာနတို့၏ သဘောထားမှတ်ချက်များနှင့် လုပ်ငန်းဆောင်ရွက်မည့် မြေနေရာကို ဖော်ပြသည့်မြေပုံများကို နောက်ဆက်တွဲ(က) အဖြစ်လည်းကောင်း၊ ထွက်ကုန်အပေါ် အကျိုးအမြတ် ခွဲဝေမှုစနစ်ဖြင့် ဆောင်ရွက်ရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်လုပ်ငန်း နှင့် Myanmar Royal Prestige Plantation Co., Ltd.(MRPP) တို့ ချုပ်ဆိုမည့် Product Sharing Agreement (မူကြမ်း)ကို ရွှေနေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ နိုင်ငံခြားစီးပွား ဆက်သွယ်ရေး ဦးစီးဌာန တို့၏ သဘောထားမှတ်ချက်များနှင့် အညီ ပြင်ဆင်၍ နောက်ဆက်တွဲ(ခ) အဖြစ်လည်းကောင်း၊ တော်ဝင်

ရွှေပုလဲစက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်နှင့် မလေးရှားနိုင်ငံ Prestige Platform Sdn.Bhd. တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ်(မူကြမ်း)ကို နောက်ဆက်တွဲ(ဂ) အဖြစ်လည်းကောင်း ပူးတွဲတင်ပြအပ်ပါသည်။

၃။ လုပ်ငန်း၏ ကနဦး ရင်းနှီးမြှုပ်နှံမှုမှာ US$ ၄၀ သန်း ဖြစ်၍ ချေးငွေ US$ ၂၅ သန်း ပါဝင်ပါသည်။ ၎င်းတွင် ငွေသား US $ ၀.၃၂၆ သန်း၊ စက်ပစ္စည်း ကိရိယာ တန်ဆာပလာ US $ ၁၂.၇၉၈ သန်း၊ ကုန်ကြမ်းပစ္စည်း၊ ကျွမ်းကျင်မှုနည်းပညာနှင့် အခြားဆက်စပ်ပစ္စည်းများ US $ ၂၆.၈၇၆ သန်း တို့ ပါဝင်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း၏ ကနဦးသက်တမ်းကာလမှာ (၃၅)နှစ်ဖြစ်ပြီး နှစ်ဖက် သဘောတူညီချက်ဖြင့် နောက်ထပ်(၂၅)နှစ် သက်တမ်းတိုးမြှင့် ဆောင်ရွက်ရန် ဖြစ်ပါသည်။ စိုက်ပျိုးရေးကာလ (တည်ဆောက်ရေးကာလ)(၆)နှစ် ဖြစ်ပါသည်။

၅။ Myanmar Royal Prestige Plantation Co., Ltd. သည် တနင်္သာရီတိုင်း ဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသရှိ မြေဧရိယာ (၅၀,၀၀၀)ဧက အနက် စိုက်ပျိုးမြေ ဖော်ထုတ်နိုင်မည့် မြေဧရိယာ (၃၀,၀၀၀) ဧက ကို အောက်ပါအတိုင်း နှစ်အလိုက် ဖော်ထုတ်စိုက်ပျိုးမည် ဖြစ်ပါသည်။

| နှစ် | ဖော်ထုတ်စိုက်ပျိုးမည့်ဧရိယာ(ဧက) |
|---|---|
| ပထမနှစ် | ၁,၀၀၀ |
| ဒုတိယနှစ် | ၃,၀၀၀ |
| တတိယနှစ် | ၅,၀၀၀ |
| စတုတ္ထနှစ် | ၆,၀၀၀ |
| ပဉ္စမနှစ် | ၇,၀၀၀ |
| ဆဋ္ဌမနှစ် | ၈,၀၀၀ |
| စုစုပေါင်း | ၃၀,၀၀၀ |

၆။ တစ်နာရီ တန်(၆၀)ကျ ဆီသန့်စက်ရုံကို တတိယနှစ်တွင် စတင်တည်ဆောက်ကာ စတုတ္ထနှစ်တွင် ဆီကြမ်း စတင်ထုတ်လုပ်မည်ဖြစ်ပါသည်။

၇။ စားအုန်းဆီရောင်းဈေးနှုန်းမှာ ၁ တန်လျှင် US $ ၅၀၀ ဖြစ်ပါသည်။ တစ်နှစ်ပျမ်းမျှ ထုတ်လုပ်မှုမှာ ၄၄,၀၅၇ တန် ဖြစ်ပါသည်။ ထွက်ရှိလာသော သန့်စင်ပြီး စားအုန်းဆီချောများကို ပြည်တွင်းတွင် ၅၀% နှင့် ပြည်ပ သို့ ၅၀% တင်ပို့ရောင်းချမည်ဖြစ်ပါသည်။ လုပ်ငန်းကို ဆောင်ရွက်

ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | US $ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂၄.၇၀ |
| (ခ) | အသုံးစရိတ် | ၁၁.၁၈ |
| (ဂ) | အသားတင်အမြတ် | ၁၃.၅၂ |

၈။ လုပ်ငန်း၏ အရင်းကြေကာလ (၁၁) နှစ် (၆)လ ဖြစ်ပြီး အရင်းအနှီးပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း IRR မှာ ၃၃ % ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်နိုင်ငံတော်မှစီမံကိန်းကာလအတွင်း US $ (၄၂.၆၉၆)သန်း ရရှိနိုင်မည် ဖြစ်သည့်အပြင် ခန့်မှန်းခြေအားဖြင့် ကုန်သွယ်လုပ်ငန်းခွန်နှင့် ဝင်ငွေခွန်စုစုပေါင်း US$ (၁၅၀)သန်း ခန့် ရရှိနိုင်မည်ဖြစ်ပါသည်။

၁၀။ Myanmar Royal Prestige Plantation Co., Ltd. သည် ယခုထွက်ရှိလာမည့် စားအုန်းဆီကြမ်းနှင့် ဆီချောများကို နိုင်ငံတော်ကိုယ်စား မြေရှင်အဖြစ်ဆောင်ရွက်မည့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန(နှစ်ရှည်ပင်လုပ်ငန်း)သို့ ဆီသီးခိုင် စတင် ထွက်ရှိလာသည့် အချိန်မှစ၍ အောက်ပါအစီအစဥ် အတိုင်း ခွဲဝေခံစားမည်ဖြစ်ကြောင်း Product Sharing စာချုပ်(မူကြမ်း) အပိုဒ် ၅.၁၅ တွင် ဖော်ပြထားပါသည်။

| စဥ် | ကာလ | ထွက်ရှိမှုအပေါ် ပေးရန်အချိုး | ရရှိနိုင်မည့်မျှော်မှန်း ထွက်ကုန်ပမာဏ(တန်) |
|---|---|---|---|
| (က) | ဆီသီးခိုင်ထွက်ရှိလာချိန် မှ (၁၀)နှစ်ထိ | ၂.၅% | ဆီကြမ်း (၃,၇၁၅) |
| (ခ) | စီမံကိန်းကာလ(၁၁)နှစ်မှ (၁၄)နှစ်ထိ | ၅% | ဆီကြမ်း (၁၁,၈၇၀) |
| (ဂ) | စီမံကိန်းကာလ (၁၅)နှစ်မှ (၁၈)နှစ်ထိ | ၇% | ဆီကြမ်း (၁၈,၂၉၈) (သို့မဟုတ်) ဆီချော (၁၄,၁၉၆) |
| (ဃ) | စီမံကိန်းကာလ (၁၉)နှစ်မှ (၂၂)နှစ်ထိ | ၅% | ဆီကြမ်း (၁၃,၈၂၀) (သို့မဟုတ်) ဆီချော (၁၀,၃၆၅) |
| (င) | (၂၃)နှစ်မှစ၍ နောက်ပိုင်း | ၂.၅% | ဆီကြမ်း (၁၅,၂၃၀) (သို့မဟုတ်) ဆီချော (၁၁,၄၂၃) |

၁၁။ Product Sharing စာချုပ်(မူကြမ်း) အပိုဒ် ၅.၁၇ အရ ကုမ္ပဏီ၏ နှစ်စဉ် ဆီအုန်း ထုတ်လုပ်မှုအပေါ် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှု သီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်းနှင့် Myanmar Royal Prestige Plantation Co., Ltd. မှ ကျွမ်းကျင်သူများ ဖွဲ့စည်းထားသည့် ကော်မတီမှ မျှတသည့် ခွဲဝေမှုကို အတည်ပြုမည်ဖြစ်ပါကြောင်း၊ နှစ်စဉ် ထုတ်လုပ်မှုကို (၆)လတစ်ကြိမ် စစ်ဆေးအတည်ပြုမည် ဖြစ်ပါကြောင်း၊ နှစ်စဉ်ထုတ်လုပ်မှု အပေါ် ကော်မတီ၏ အတည်ပြုချက်နှင့်အညီ Product Sharing စာချုပ်အတိုင်း လယ်ယာ စိုက်ပျိုးရေး နှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း နှင့် ကုမ္ပဏီတို့သည် ထုတ်လုပ်မှု ပမာဏ ကို ခွဲဝေမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၂။ ယင်းစာပိုဒ်၌ပင် ကော်မတီသည် နှစ်စဉ်မျှော်မှန်းထားသည့် ထုတ်လုပ်မှု ပမာဏထက် လျော့နည်းပါက နှစ်စဉ်ထုတ်လုပ်မှုကို လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနသို့ တင်ပြပြီး မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်းအတွက် ထုတ်လုပ်မှုကို ခွဲဝေခံစားမည် ဖြစ်ပါသည်။ အကယ်၍ စိုက်ပျိုးနိုင်သည့် မြေဧရိယာသည် စီမံကိန်းပါ မျှော်မှန်းထားသည့် ဧရိယာထက် လျော့နည်းခဲ့လျှင် Myanmar Royal Prestige Plantation Co., Ltd. မှ လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှု သီးနှံဖွံ့ဖြိုးရေး လုပ်ငန်းနှင့် မြေယာ ဖွံ့ဖြိုးမှု အတွက် ပြန်လည်ညှိနှိုင်းရေးဆွဲရန် အဆိုပြုမည်ဖြစ်ကြောင်း စာချုပ်တွင် ဖော်ပြထားပါသည်။

၁၃။ Product Sharing စာချုပ်(မူကြမ်း) အပိုဒ် ၈.၁ အရ စာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် (သို့မဟုတ်) စာချုပ်ဝင်တစ်ဖက်က စာချုပ်ကို ရပ်စဲပါက Myanmar Royal Prestige Plantation Co., Ltd. သည် မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်းသို့ မည်သည့် အဖိုးစားနားမျှ မပါဘဲ မရွှေ့မပြောင်း နိုင်သည့် ပစ္စည်းများအားလုံးကို လွှဲပြောင်းပေးရမည်ဟု ဖော်ပြပါရှိပါသည်။

၁၄။ Product Sharing စာချုပ် (မူကြမ်း) အပိုဒ် ၉.၁ အရ Myanmar Royal Prestige Plantation Co., Ltd. သည် ဘဏ်အာမခံကြေး (Performance Bank Guarantee) အဖြစ် နှစ်စဉ်ရင်းနှီးမြှုပ်နှံမှု၏ ၃% ကို ဘဏ္ဍာရေးနှစ်၏ ပထမလတွင် ပေးဆောင်မည်ဟု ဖော်ပြထား ပါသည်။

၁၅။ Myanmar Royal Prestige Plantation Co., Ltd. သည် လုပ်ငန်းတွင် လိုအပ်သော လျှပ်စစ်ဓါတ်အားကို နိုင်ငံတော်မှ မရရှိမီ ကိုယ်ပိုင်မီးစက်ဖြင့် အသုံးပြုမည်ဖြစ်ကြောင်း ဖော်ပြထား ပါသည်။

၁၆။ အဆိုပြုလုပ်ငန်းအားတနင်္သာရီတိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ဆီအုန်း စိုက်ပျိုးထုတ်လုပ်မှုလုပ်ငန်းအတွက် ကန့်ကွက်ရန်မရှိပါကြောင်း၊ တနင်္သာရီတိုင်းသစ်တောဦးစီး ဌာနမှလည်း သဘာဝပတ်ဝန်းကျင်အား ထိခိုက်ပျက်စီးစေခြင်းမရှိလျှင် သစ်တောရေးရာ ဝန်ကြီး

ဌာနမှ ခွင့်ပြုနိုင်ကြောင်း၊ မလေးရှားနိုင်ငံဆိုင်ရာ မြန်မာသံရုံးမှ Prestige Platform Sdn.Bhd. သည် မလေးရှားနိုင်ငံတွင် တရားဝင်မှတ်ပုံတင်ထားသည့် ကုမ္ပဏီဖြစ်ပါကြောင်းနှင့် ခိုင်မာသော ကုမ္ပဏီကြီးတစ်ခု ဖြစ်ပါကြောင်း၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်းမှလည်း မြေယာကြိုတင် လုပ်ကိုင်ခွင့် ရရှိပြီး ဖြစ်၍ ဆက်လက်ထောက်ခံပါကြောင်း၊ ကျေးတိုင်နှင့် မြေစာရင်းဦးစီးဌာနမှ လည်း မြေယာပြင်ဆင်ခြင်းနှင့် ဆီအုန်းပျိုးခင်းများ စိုက်ပျိုးလုပ်ကိုင်ရေးအတွက် မြေပေးနိုင် ပါကြောင်း၊ တနင်္သာရီတိုင်း မြေစာရင်းဦးစီးဌာနမှလည်း ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားထား ပါသည်။

၁၇။ လုပ်ငန်းဆောင်ရွက်ရန်အတွက် လုပ်သားများခန့်ထားရာတွင် လုပ်ငန်းသဘာဝအရ နှစ် အလိုက် ဖော်ပြထားပြီး ပထမနှစ်တွင် ပြည်တွင်းမှ ၂၀၀ဦး နှင့် ပြည်ပမှ ၉ ဦး စုစုပေါင်း ၂၀၉ ဦး ခန့်ထားရန် လိုအပ်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၁၈။ Prestige Platform Sdn.Bhd သည် မလေးရှားနိုင်ငံတွင် ကုမ္ပဏီအမှတ် ၈၆၄၇၆၉ - P ဖြင့် ဖွဲ့စည်းထားသည့် ကုမ္ပဏီဖြစ်ပြီး ကုမ္ပဏီ၏လိပ်စာမှာ မလေးရှားနိုင်ငံ၊ Suite 16-08, Level 16, Wisma UOA II, No.21 Jalan Pinang, 50450 Kuala Lumpur ဖြစ်ကြောင်း၊ ငွေရေးကြေးရေး အထောက်အထားအဖြစ် မလေးရှားနိုင်ငံ OCBC Bank တွင် ၂၀၀၉ ခုနှစ် အောက်တိုဘာလမှ စတင်၍ ငွေစာရင်း ဖွင့်လှစ်ထားပြီး ငွေကြေးအားဖြင့် ခိုင်မာသော ကုမ္ပဏီ ဖြစ်ကြောင်း ထောက်ခံတင်ပြထားပါသည်။

၁၉။ တော်ဝင်ရွှေပုလဲကုမ္ပဏီလီမိတက်၏ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာ့ နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် (၂-၁၂-၂၀၁၀)နေ့၌ စာရင်းအမှတ် IDA 0400985 ဖြင့် US $ ၉၅,၅၁၉.၂၁ ရှိပါကြောင်း ဘဏ်စာရွက်အထောက်အထားကို တင်ပြထားပါသည်။

၂၀။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို လျှောက်ထားလာပါသည်။

၂၁။ ရင်းနှီးမြှုပ်နှံမှုအဖြစ် တင်သွင်းမည့် စက်ပစ္စည်းများတွင် Dumptruck (၈)စီး၊ Toyota 4x4 (၆)စီး၊ Toyota Landcruiser/ Parado (၂)စီး၊ Generator (500 KVA) 1 Unit၊ Generator (250 KVA) 2 Unit နှင့် Oil Palm Machinery 1 Unit တို့ ပါဝင်ကြောင်း တင်ပြထားပါသည်။

၂၂။ အဆိုပြုချက်ကို ကော်မရှင်၏ (၄၂/၂၀၁၀) (၁၇-၁၂-၂၀၁၀) အစည်းအဝေးသို့တင်ပြခဲ့ရာ အစည်းအဝေးမှ ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှု ခံယူရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၂၃။ (က) Myanmar Royal Prestige Plantation Co., Ltd. တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း စိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကို သဘောတူ - မတူ။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ၊ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ - မတူ။

(ဂ) သဘောတူခွင့်ပြုပါလျှင် အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် သဘောတူ - မတူ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်

၂၄။ ကုန်သွယ်မှုမူဝါဒကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

ကုန်သွယ်မှုမူဝါဒကောင်စီ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာနှင့်အစုရှင်များ၏အမည် | ဒါရိုက်တာနှင့်အစုရှင်များ၏ လိပ်စာ |
|---|---|---|---|
| ၁။ | Myanmar Royal Prestige Platform Co., Ltd.(MRPP) | Party A<br>Royal Golden Pearl Industry Co., Ltd.<br>Represented by<br>1. U Pyi Soe<br>Managing Director<br>12/Ma Ga Ta (N) 031279 | No.30A, Room 9, Yaw Min Gyi Street, Dagon Township, Yangon, Myanmar. |
| | | Party B<br>Prestige Platform Sdn.Bhd<br>Represented by<br>1. Mr. Tan Ghee Kiat<br>Director<br>PP No. A 18482445 | No.7, Lorong Tempinis, Kanan Dua Lucky Garden Bangsar 59100, Kuala Lumpur.<br>Malaysia |

၁။ ကုမ္ပဏီ၏ တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် — Tel- ၀၁- ၆၆၇၄၃၆
Fax- ၉၅-၁-၆၆၇၄၄၆

၂။ ကုမ္ပဏီ၏ လိပ်စာအပြည့်အစုံ — အမှတ် ၃၁၊ သီရိမင်္ဂလာရိပ်သာ၊ ကမ္ဘာအေးဘုရားလမ်း၊ ရန်ကုန်မြို့

၃။ ကုမ္ပဏီ၏ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်/ရာထူး — ဦးကြည်ဝင်း
ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ — စိုက်ပျိုးရေးနှင့်ထုတ်လုပ်ရေး

၅။ ကုမ္ပဏီ မှတ်ပုံတင်အမှတ်/နေ့စွဲ — -

၆။ ကုမ္ပဏီ မှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့် နေ့စွဲ — -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် — -

ပြည်ထောင်စုမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
ရုံးအမှတ်(၃၂)၊ နေပြည်တော်

ဖက်(စ): ၉၅-၆၇-၄၀၆၃၃၃ တယ်လီဖုန်း-၀၆၇- ၄၀၆၃၃၄-၄၀၆၀၇၅

စာအမှတ်၊ ရက- ၆(ခ)/န-၄၆၀ /၂၀၁၀( [illegible] )။
ရက်စွဲ ၊ ၂၀၁၀ ခုနှစ်၊ ဒီဇင်ဘာလ ၂၈ ရက်။

အကြောင်းအရာ။ ။Myanmar Royal Prestige Plantation Co., Ltd.(MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း (၁၀,၀၀၀ဧက) စိုက်ပျိုးရန် အဆိုပြုလွှာ တင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ (၃-၁၂-၂၀၁၀)ရက်စွဲပါ စာအမှတ်၊ ၁၁/MRPP(၉၇၃/၂၀၁၀)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနမှ ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်းကို (၁၇- ၁၂ -၂၀၁၀)နေ့တွင် ကျင်းပသော ကော်မရှင်၏(၄၂/၂၀၁၀) ကြိမ်မြောက် အစည်းအဝေး သို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ Myanmar Royal Prestige Plantation Co., Ltd.(MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း (၁၀,၀၀၀ဧက) စိုက်ပျိုးရန် အဆိုပြုလွှာတင်ပြခြင်း ကိစ္စရပ်အား မူအားဖြင့် သဘောတူသဖြင့် ကုန်သွယ်မှုမူဝါဒကောင်စီ သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ ကော်မရှင်အစည်းအဝေး ဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်နှင့် ကုန်သွယ်မှု မူဝါဒကောင်စီသို့ ဆက်လက်တင်ပြနိုင်ရန်အတွက် ရည်ညွှန်းပါစာ၏ အဆိုပြုလွှာ မိတ္တူ (၁၀) စုံကို Adobe Acrobat Reader (Pdf) file ဖြင့် ထည့်သွင်းထားသော CD Copy နှင့် အတူ ဤ ကော်မရှင်သို့ ပေးပို့ ပါရန် အကြောင်းကြားအပ်ပါသည်။

(signature)

ဥက္ကဋ္ဌ (ကိုယ်စား)
(သူရိန်ဇော်၊အတွင်းရေးမှူး)

ဝန်ကြီးရုံး
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

မိတ္တူကို-

(၁) ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း

(၂) ညွှန်ကြားရေးမှူးချုပ်
နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန

(၃) တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်

(၄) ရုံးလက်ခံ/မျှောစာတွဲ

TC Guide

(၄၂/၂၀၁၀) ကော်မရှင်အစည်းအဝေး(စားပွဲတင်)

အကြောင်းအရာ။ ။ Myanmar Royal Prestige Plantation Co., Ltd. (MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံး ဒေသ တွင် ဆီအုန်း (၃၀,၀၀၀ ဧက) စိုက်ပျိုးရန် အဆိုပြုလွှာ တင်ပြခြင်း ကိစ္စ။

၁။ မြန်မာနိုင်ငံသားပိုင် တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်နှင့် မလေးရှားနိုင်ငံမှ Prestige Platform Sdn. Bhd. တို့ ဖက်စပ်ပြု၍ တနင်္သာရီတိုင်းဒေသကြီး မြိတ်ခရိုင် ဘုတ်ပြင်းမြို့နယ် မနိုးရုံးဒေသရှိ မြေဧက (၃၀၀၀၀) တွင် Myanmar Royal Prestige Plantation Co., Ltd. (MRPP) ဖက်စပ်ကုမ္ပဏီအား တည်ထောင်ကာ ဆီအုန်းစိုက်ပျိုးခြင်းနှင့် စားအုန်းဆီ ထုတ်လုပ်ခြင်း လုပ်ငန်းများကို နိုင်ငံတော်နှင့် Product Sharing စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုတင်ပြလာပါသည်။

၂။ စီမံကိန်း၏ ကနဦး ရင်းနှီးမြှုပ်နှံမှုမှာ US$ (၄၀) သန်း ဖြစ်ပါသည်။ MRPP သည် ပထမနှစ်တွင် ဧက ၁၀၀၀၊ ဒုတိယနှစ်တွင် ဧက ၃၀၀၀၊ တတိယနှစ်တွင် ဧက ၅၀၀၀၊ စတုတ္ထနှစ်တွင် ဧက ၆၀၀၀၊ ပဉ္စမနှစ်တွင် ဧက ၇၀၀၀၊ ဆဋ္ဌမနှစ်တွင်ဧက ၈၀၀၀၊ စုစုပေါင်း ဧက ၃၀၀၀၀ ကို နှစ်အလိုက် ဖော်ထုတ်စိုက်ပျိုးသွားရန် စီစဉ်ထားပါကြောင်း တင်ပြထားပါသည်။

၃။ တစ်နာရီ တန် (၆၀) ကျ ဆီသန့်စက်ရုံကို တတိယနှစ်တွင် စတင်တည်ဆောက်ကာ စတုတ္ထနှစ်တွင် ဆီကြိမ်း စတင်ထုတ်လုပ်မည် ဖြစ်ပါသည်။

၄။ အဆိုပြုချက်နှင့်အတူ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ ရှေ့နေချုပ်ရုံး၊ နိုင်ငံခြား စီးပွားဆက်သွယ်ရေးဦးစီးဌာန၊ တနင်္သာရီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၊ တနင်္သာရီတိုင်း သစ်တောဦးစီးဌာန၊ နိုင်ငံခြား ရေးဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်လုပ်ငန်း၊ ကျေးတိုင် နှင့် မြေစာ ရင်း ဦးစီးဌာန၊ တနင်္သာရီတိုင်း မြေစာရင်းဦးစီးဌာနတို့၏ သဘောထား မှတ်ချက် များကို တင်ပြထားပါသည်။

၅။ တနင်္သာရီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ ဆီအုန်းစိုက်ပျိုး ထုတ်လုပ်မှုလုပ်ငန်းအတွက် ကော်မရှင်၏ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်မည် ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း၊ တနင်္သာရီတိုင်း သစ်တောဦးစီးဌာနမှလည်း သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်ပျက်စီးစေခြင်း မရှိလျှင် သစ်တောရေးရာဝန်ကြီးဌာနမှ ခွင့်ပြုနိုင် ကြောင်း၊ မလေးရှားနိုင်ငံဆိုင်ရာ မြန်မာသံရုံးမှ Prestige Platform Sdn. Bhd. သည် မလေးရှားနိုင်ငံတွင် တရားဝင် မှတ်ပုံတင်ထားသည့် ကုမ္ပဏီဖြစ်ပါကြောင်းနှင့် ခိုင်မာသော ကုမ္ပဏီကြီး တစ်ခုဖြစ်ပါကြောင်း၊ မြန်မာ့စက်မှု သီးနှံဖွံ့ဖြိုးရေးလုပ်ငန်းမှလည်း ကော်မရှင်၏ လုပ်ထုံးလုပ်နည်းနှင့် သဘောထားအတိုင်းသာ ဖြစ်ပါ ကြောင်းနှင့် ဆက်လက်ထောက်ခံပါကြောင်း၊ ကျေးတိုင် နှင့် မြေစာရင်းဦးစီးဌာနမှလည်း မြေယာပြင်ဆင် ခြင်းနှင့် ဆီအုန်းပျိုးခင်းများ စိုက်ပျိုးလုပ်ကိုင်ရေး အတွက် မြေပေးနိုင်ပါကြောင်း၊ တနင်္သာရီတိုင်း မြေစာရင်းဦးစီးဌာမှလည်း ကန့်ကွက်ရန် မရှိပါ ကြောင်း ပြန်ကြားထားပါသည်။

၆။ ဘဏ်အာမခံကြေးအဖြစ် နှစ်အလိုက် ရင်းနှီးမြှုပ်နှံငွေ၏ ၃ % ကို Performance Bank Guarantee အဖြစ် ပေးဆောင်စေရန် ဖော်ပြထားပါသည်။

၇။ Myanmar Royal Prestige Plantation Co., Ltd. (MRPP) သည် လုပ်ငန်းတွင် လိုအပ်သော လျှပ်စစ်ဓါတ်အား ကို နိုင်ငံတော်မှရရှိမီ ကိုယ်ပိုင်မီးစက်ဖြင့် အသုံးပြုမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

၈။ အဆိုပြုချက်နှင့် အတူ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှု သီးနှံဖွံ့ဖြိုးရေး လုပ်ငန်း၊ နှစ်ရှည်ပင် လုပ်ငန်းနှင့် Myanmar Royal Prestige Plantation Co., Ltd. (MRPP) တို့ ချုပ်ဆိုမည့် Product Sharing Contract မူကြမ်းနှင့် Royal Golden Pearl Industry Co., Ltd. နှင့် Prestige Platform Sdn. Bhd. တို့ချုပ်ဆိုမည့် Joint Venture Agreement မူကြမ်း၊ MRPP ၏ MOA & AOA မူကြမ်း နှင့် လုပ်ငန်းဆောင်ရွက်မည့် မြေနေရာကို ဖော်ပြသည့် မြေပုံများကို တင်ပြထားပါသည်။

၉။ သို့ဖြစ်ပါ၍ Myanmar Royal Prestige Plantation Co., Ltd. (MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း (၃၀,၀၀၀) ဧက စိုက်ပျိုးရန် အဆိုပြုလွှာ တင်ပြခြင်း ကိစ္စကို လုပ်ငန်း၏ အသေးစိတ်အချက်အလက်များ ပြုစု၍ တင်ပြ လမ်းညွှန်မှု ခံယူအပ်ပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်

**ကုန်သွယ်မှုမှုဝါဒကောင်စီ**

၂၀၁၁ခုနှစ်၊ ဇန်နဝါရီလ(၁၂)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၁) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၆-စ | ၁၉၀၈ | (က) Myanmar Royal Prestige Plantation Co., Ltd. တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရိုးဒေသတွင် ဆီအုန်းစိုက်ပျိုးခြင်းနှင့်သန့်စင်ပြီးစားအုန်းဆီ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းစီမံကိန်း၏ ကနဦးသက်တမ်းကာလမှာ (၃၀) နှစ် ဖြစ်ပြီး နှစ်ဖက်သဘောတူညီချက်ဖြင့် နောက်ထပ် (၁၅)နှစ် (၂)ကြိမ် သက်တမ်းတိုး ဆောင်ရွက်ရန် ပြင်ဆင် ရေးသား၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်။<br>(ခ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန်။<br>(ဂ) အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။<br>လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန။<br>ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ
စာအမှတ်
ရက်စွဲ 14/1/2011

မိတ္တူမှန်

WWM /TTN 13-1-2011

ပြည်ထောင်စုမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ရုံးအမှတ်(၃၂)၊ နေပြည်တော်

ဖက်(စ)- ၉၅-၆၇-၄၀၆၃၃၃ တယ်လီဖုန်း-၀၆၇-၄၀၆၃၃၄။ ၄၀၆၀၇၅

စာအမှတ်၊ ရက-၆(ခ)/န-၄၆၀/ ၂၀၁၁(၆၁၇ )

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဇန်နဝါရီလ ၁၄ ရက်။

အကြောင်းအရာ။ ။ <u>Myanmar Royal Prestige Plantation Co., Ltd.(MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း (၃၀,၀၀၀ ဧက) စိုက်ပျိုးရန် အဆိုပြုလွှာ တင်ပြခြင်းကိစ္စ။</u>

ရည်ညွှန်းချက်။ ။ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏

(၁)(၃၀-၁၂-၂၀၁၀) ရက်စွဲပါ စာအမှတ် ၁၁/MRPP (၁၀၂၈/၂၀၁၀)

(၂)(၃-၁၂-၂၀၁၀) ရက်စွဲပါ စာအမှတ် ၁၁/MRPP (၉၇၃/၂၀၁၁)

၁။ အထက် အကြောင်းအရာပါ ကိစ္စနှင့် စပ်လျဉ်း၍ Myanmar Royal Prestige Plantation Co., Ltd. (MRPP) သည် တနင်္သာရီတိုင်း ဒေသကြီး၊ မြိတ်ခရိုင် ဘုတ်ပြင်း မြို့နယ်၊ မနိုးရုံး ဒေသတွင် ဆီအုန်း စိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ခြင်း လုပ်ငန်းများကို Product Sharing စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီး ဌာနမှ ရည်ညွှန်းချက်ပါ စာများဖြင့် အဆိုပြု တင်ပြလာပါသည်။

၂။ ၎င်းအဆိုပြုချက်ကို (၁၂-၁-၂၀၁၁) နေ့တွင် ကျင်းပသည့် ကုန်သွယ်မှုမူဝါဒ ကောင်စီ၏(၁/၂၀၁၁)အစည်းအဝေးသို့တင်ပြခဲ့ရာအစည်းအဝေးမှအောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်။

(က) Myanmar Royal Prestige Plantation Co., Ltd. (MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း စိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း စီမံကိန်း၏ ကနဦးသက်တမ်းကာလမှာ (၃၀) နှစ်ဖြစ်ပြီး နှစ်ဖက် သဘောတူညီချက်ဖြင့် နောက်ထပ် (၁၅) နှစ် (၂) ကြိမ် သက်တမ်းတိုး ဆောင်ရွက်ရန် ပြင်ဆင်ရေးသား၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်၊

(ခ) နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန်၊

(ဂ) အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်၊

၃။ သို့ဖြစ်ပါ၍ အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြနိုင်ရန်အတွက် ကနဦး သက်တမ်းကာလကို ပြင်ဆင်ရေးသား၍ ရည်ညွှန်းပါစာများ၏ အဆိုပြုလွှာမိတ္တူ (၁၅) စုံကို Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်း ထားသော CD Copy နှင့်အတူ ကော်မရှင်သို့ ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

အတွင်းရေးမှူး (ကိုယ်စား)
(မြသူဇာ၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

<u>ဝန်ကြီးရုံး</u>
<u>လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန</u>

မိတ္တူကို-

(၁) ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်း
(၂) ဦးဆောင်ညွှန်ကြားရေးမှူး၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည် ပင်လုပ်ငန်း)
(၃) ရုံးလက်ခံ /မျှောစာတွဲ။

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက - ၆(ခ)/န- ၄၆၀/၂၀၁၁( ၆၁၇ )

**Myanmar Royal Prestige Plantation Co., Ltd.(MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း (၃၀,၀၀၀ ဧက) စိုက်ပျိုးရန် အဆိုပြုလွှာ တင်ပြခြင်းကိစ္စ။**

**အကျဉ်းချုပ်။** ။ မြန်မာနိုင်ငံသားပိုင် တော်ဝင်ရွှေပုလဲ စက်မှုလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ ၂၀% နှင့် မလေးရှားနိုင်ငံမှ Prestige Platform Sdn.Bhd. မှ ၈၀% တို့ ဖက်စပ်ပြု၍ Myanmar Royal Prestige Plantation Co., Ltd. (MRPP) ဖက်စပ်ကုမ္ပဏီ တည်ထောင်ကာ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင် ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသရှိ မြေဧက (၃၀,၀၀၀) တွင် ဆီအုန်း စိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ခြင်းလုပ်ငန်းများကို မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေး လုပ်ငန်းဌာန (နှစ်ရှည်ပင် လုပ်ငန်း) နှင့် Product Sharing စနစ်ဖြင့် လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တင်ပြလာပါသည်။

လုပ်ငန်း၏ ကနဦး ရင်းနှီးမြှုပ်နှံမှုမှာ US$ ၄၀ သန်း ဖြစ်၍ ချေးငွေ US$ ၂၅ သန်း ပါဝင်ပါသည်။ ရင်းတွင် ငွေသား US $ ၀.၃၂၆ သန်း၊ စက်ပစ္စည်းကိရိယာ တန်ဆာပလာ US $ ၁၂.၇၉၈ သန်း၊ ကုန်ကြမ်းပစ္စည်း၊ ကျွမ်းကျင်မှုနည်းပညာနှင့် အခြားဆက်စပ်ပစ္စည်းများ US $ ၂၆.၈၇၆ သန်း တို့ ပါဝင်ပါသည်။

အဆိုပြုချက်ကို (၁၂-၁-၂၀၁၁) နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၁/၂၀၁၁)အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ အဆိုပြုလုပ်ငန်း၏ ကနဦး သက်တမ်းကာလကို (၃၀) နှစ်နှင့် နှစ်ဖက်သဘောတူညီချက်ဖြင့် နောက်ထပ် (၁၅) နှစ် နှစ်ကြိမ် သက်တမ်းတိုးမြှင့်ရန်နှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြရခြင်းဖြစ်ပါသည်။

စားအုန်းဆီရောင်းဈေးနှုန်းမှာ ၁ တန်လျှင် US $ ၅၀၀ ဖြစ်ပါသည်။ တစ်နှစ်ပျမ်းမျှ ထုတ်လုပ်မှုမှာ ၄၄,၀၅၇ တန် ဖြစ်ပါသည်။ ထွက်ရှိလာသော သန့်စင်ပြီး စားအုန်းဆီ ချောများကို ပြည်တွင်းတွင် ၅၀% နှင့် ပြည်ပ သို့ ၅၀% တင်ပို့ရောင်းချမည်ဖြစ်ပါသည်။

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်

# ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၁၁ခုနှစ်၊ ဇန်နဝါရီလ(၁၂)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၁) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၆-စ | ၁၉၀၈ | (က) Myanmar Royal Prestige Plantation Co., Ltd. တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်းစိုက်ပျိုးခြင်းနှင့်သန့်စင်ပြီးစားအုန်းဆီ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းစီမံကိန်း၏ ကနဦးသက်တမ်းကာလမှာ (၃၀)နှစ် ဖြစ်ပြီး နှစ်ဖက်သဘောတူညီချက်ဖြင့် နောက်ထပ် (၁၅)နှစ် (၂)ကြိမ် သက်တမ်းတိုး ဆောင်ရွက်ရန် ပြင်ဆင် ရေးသား၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်။<br>(ခ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန်။<br>(ဂ) အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။<br>လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန။<br>ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ
စာအမှတ်
ရက်စွဲ 14/1/2011

၎င်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်နိုင်ငံတော်မှစီမံကိန်းကာလအတွင်း US $ (၄၂.၆၉၆)သန်း ရရှိနိုင်မည် ဖြစ်သည့်အပြင် ခန့်မှန်းခြေအားဖြင့် ကုန်သွယ်လုပ်ငန်းခွန်နှင့် ဝင်ငွေခွန်စုစုပေါင်း US$ (၁၅၀)သန်း ခန့် ရရှိနိုင်မည်ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်း၏ Product Sharing စာချုပ်အပေါ် ရှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနနှင့် နိုင်ငံခြားစီးပွား ဆက်သွယ်ရေးဦးစီးဌာနတို့၏ သဘောထားမှတ်ချက်များ နှင့် အညီ ပြင်ဆင်ထားပါသည်။ ထို့ပြင် တနင်္သာရီတိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ဆီအုန်းစိုက်ပျိုးထုတ်လုပ်မှုလုပ်ငန်းအတွက် ကန့်ကွက်ရန်မရှိပါကြောင်း၊ တနင်္သာရီတိုင်း သစ်တော ဦးစီးဌာနမှလည်း သဘာဝပတ်ဝန်းကျင်အား ထိခိုက်ပျက်စီးစေခြင်းမရှိလျှင် သစ်တောရေးရာ ဝန်ကြီးဌာနမှ ခွင့်ပြုနိုင်ကြောင်း၊ မလေးရှားနိုင်ငံဆိုင်ရာ မြန်မာသံရုံးမှ Prestige Platform Sdn.Bhd. သည် မလေးရှားနိုင်ငံတွင် တရားဝင်မှတ်ပုံတင်ထားသည့် ကုမ္ပဏီဖြစ်ပါကြောင်းနှင့် ခိုင်မာသော ကုမ္ပဏီကြီးတစ်ခု ဖြစ်ပါကြောင်း၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်းမှလည်း မြေယာ ကြိုတင် လုပ်ကိုင်ခွင့် ရရှိပြီးဖြစ်၍ ဆက်လက် ထောက်ခံပါကြောင်း၊ ကျေးတိုင်နှင့် မြေစာရင်း ဦးစီးဌာနမှလည်း မြေယာပြင်ဆင်ခြင်းနှင့် ဆီအုန်းပျိုးခင်းများ စိုက်ပျိုးလုပ်ကိုင်ရေးအတွက် မြေပေး နိုင်ပါကြောင်း၊တနင်္သာရီတိုင်းမြေစာရင်းဦးစီးဌာနမှလည်း ကန့်ကွက်ရန်မရှိပါကြောင်းသဘောထား မှတ်ချက်များဖြင့် တင်ပြထားပါသည်။

လုပ်သားများခန့်ထားရာတွင် လုပ်ငန်းသဘာဝအရ နှစ် အလိုက် ဖော်ပြထားပြီး ပထမနှစ် တွင် ပြည်တွင်းမှ ၂၀၀ဦး နှင့် ပြည်ပမှ ၉ ဦး စုစုပေါင်း ၂၀၉ ဦး ခန့်ထားရန် လိုအပ်မည်ဖြစ် ကြောင်း ဖော်ပြထားပါသည်။

Prestige Platform Sdn.Bhd သည် မလေးရှားနိုင်ငံ OCBC Bank တွင် ၂၀၀၉ ခုနှစ် အောက်တိုဘာလမှ စတင်၍ ငွေစာရင်း ဖွင့်လှစ်ထားပြီး ငွေကြေးအားဖြင့် ခိုင်မာသော ကုမ္ပဏီ ဖြစ်ကြောင်း ထောက်ခံတင်ပြထားပါသည်။

တော်ဝင်ရွှေပုလဲကုမ္ပဏီလီမိတက်၏ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာ့ နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် (၂-၁၂-၂၀၁၀)နေ့၌ စာရင်းအမှတ် IDA 0400985 ဖြင့် US $ ၉၅,၅၁၉.၂၁ ရှိပါကြောင်း ဘဏ်စာရွက်အထောက်အထားကို တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

(က) Myanmar Royal Prestige Plantation Co., Ltd. တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း စိုက်ပျိုးခြင်း နှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကို သဘောတူ - မတူ၊

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ - မတူ။

အတွင်းရေးမှူး(ကိုယ်စား)
(မြသူဇာ၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

# ပြည်ထောင်စုမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက - ၆(ခ)/န- ၄၆၀/၂၀၁၁( ၈၁၇ )
ရက်စွဲ ၊ ၂၀၁၁ ခုနှစ်၊ ဇန်နဝါရီလ ၁၄ ရက်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်

## အမှာစာ

အကြောင်းအရာ။ ။ Myanmar Royal Prestige Plantation Co., Ltd.(MRPP) တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသတွင် ဆီအုန်း (၃၀,၀၀၀ ဧက) စိုက်ပျိုးရန် အဆိုပြုလွှာ တင်ပြခြင်းကိစ္စ။

၁။ မြန်မာနိုင်ငံသားပိုင် တော်ဝင် ရွှေပုလဲစက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်မှ ၂၀% နှင့် မလေးရှားနိုင်ငံမှ Prestige Platform Sdn.Bhd. မှ ၈၀% တို့ ဖက်စပ်ပြု၍ Myanmar Royal Prestige Plantation Co., Ltd.(MRPP) ဖက်စပ်ကုမ္ပဏီ တည်ထောင်ကာ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင် ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသရှိ မြေဧက (၃၀,၀၀၀) တွင် ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ခြင်းလုပ်ငန်းများကို မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန(နှစ်ရှည်ပင်လုပ်ငန်း) နှင့် Product Sharing စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ရှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန၊ တနင်္သာရီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၊ တနင်္သာရီတိုင်း သစ်တောဦးစီးဌာန၊ နိုင်ငံခြားရေးဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန၊ ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန၊ တနင်္သာရီတိုင်း မြေစာရင်းဦးစီးဌာနတို့၏ သဘောထားမှတ်ချက်များနှင့် လုပ်ငန်းဆောင်ရွက်မည့် မြေနေရာကို ဖော်ပြသည့်မြေပုံများကို နောက်ဆက်တွဲ(က) အဖြစ်လည်းကောင်း၊ ထွက်ကုန်အပေါ် အကျိုးအမြတ် ခွဲဝေမှုစနစ်ဖြင့် ဆောင်ရွက်ရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်လုပ်ငန်း နှင့် Myanmar Royal Prestige Plantation Co., Ltd.(MRPP) တို့ ချုပ်ဆိုမည့် Product Sharing Agreement (မူကြမ်း)ကို ရှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ နိုင်ငံခြားစီးပွား ဆက်သွယ်ရေး ဦးစီးဌာန တို့၏ သဘောထားမှတ်ချက်များနှင့် အညီ ပြင်ဆင်၍ နောက်ဆက်တွဲ(ခ) အဖြစ်လည်းကောင်း၊ တော်ဝင်

EMBASSY OF THE UNION OF MYANMAR
No. 8C, Jalan Ampang Hilir, 55000 Kuala Lumpur, Malaysia.
Tel: (603) 4251 6355 / 4251 5595 / 4251 4455
Fax: (603) 4251 3855

စာအမှတ်၊ ၅၁၈ / ၃၇ - ၀၄
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ နိုဝင်ဘာလ ၂၆ ရက်

သို့

ဒုတိယဝန်ကြီး
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ မလေးရှားနိုင်ငံ၊ Prestige Platform Sdn. Bhd. နှင့် မြန်မာနိုင်ငံ၊ တော်ဝင်ရွှေပုလဲ စက်မှုလုပ်ငန်း ကုမ္ပဏီနှင့် Stark Indurstries Co. Ltd.တို့ ပူးပေါင်း၍ ဖက်စပ်ကုမ္ပဏီတည်ထောင်ကာ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုခြင်းကိစ္စ

ရည် ညွှန်း ချက်။ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ (၁၈-၁၁-၂၀၁၀) ရက်စွဲပါ စာအမှတ်၊ ၁၁/MRPP/MSPP(၉၃၇/ ၂၀၁၀)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မလေးရှားနိုင်ငံရှိ Prestige Platform Sdn. Bhd.ကုမ္ပဏီ၏ နောက်ခံသမိုင်းနှင့် ငွေကြေးခိုင်မာမှုရှိ/မရှိကို သက်ဆိုင်ရာသို့ ဆက်သွယ်စုံစမ်းခဲ့ရာ၊ ယင်းကုမ္ပဏီသည် မလေးရှားနိုင်ငံရှိ ဆီအုန်းစိုက်ပျိုးရေးနှင့် စားအုန်းဆီ ထုတ်လုပ်ရေးလုပ်ငန်းကို အဓိကလုပ်ကိုင်သည့် Glenealy Plantation (Malaya) Bhd. ကုမ္ပဏီကြီးအောက်မှ Investment Holding အဖြစ် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ လုပ်ကိုင်နိုင်ရန် သီးခြားတည်ထောင်ထားသည့်ကုမ္ပဏီတစ်ခုဖြစ်ပြီး၊ Companies Commission of Malaysia ၌ မှတ်ပုံတင်အမှတ်၊ 864769 P ဖြင့် တရားဝင်မှတ်ပုံတင်ထားသည့်ကုမ္ပဏီတစ်ခု ဖြစ်သည်မှာ မှန်ကန်ကြောင်း စုံစမ်းသိရှိရပါသည်။

၂။ Glenealy Plantation (Malaya) Bhd. ကုမ္ပဏီသည် နှစ်ပေါင်း (၅၀)ကျော် သက်တမ်းရှိပြီး၊ ဈေးကွက်ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ(၅၈၂.၆)သန်းရှိသည့် ခိုင်မာသော ကုမ္ပဏီကြီးတစ်ခုဖြစ်ပါကြောင်းနှင့် ယင်းကုမ္ပဏီ၏ Annual Report 2010 အား လိုအပ်သကဲ့သို့ အသုံးပြုနိုင်ပါရန် ဤစာနှင့် အတူ ပေးပို့အပ်ပါသည်။

သံအမတ်ကြီး(ကိုယ်စား)
(အေးကိုကို၊ ပထမအတွင်းဝန်)

မိတ္တူကို-
- နိုင်ငံခြားရေးဝန်ကြီးဌာန၊ နေပြည်တော်။

**Key developments for GLENEALY PLANTATIONS (M) BHD (GLP)**

Glenealy Plantations Malaya Bhd expected to report Q2 2011 results on January 30, 2011. This event was calculated by Capital IQ (Created on November 6, 2010).

11/6/2010

Glenealy Plantations Malaya Bhd expected to report Q2 2011 results on January 30, 2011. This event was calculated by Capital IQ (Created on November 6, 2010).

Glenealy Plantations Malaya Bhd Announces Unaudited Consolidated Earnings Results for the First Quarter Ended September 30, 2010

11/3/2010

Glenealy Plantations Malaya Bhd announced unaudited consolidated earnings results for the first quarter ended September 30, 2010. For the quarter, the company reported **profit of MYR 9,894,000** and profit attributable to equity holders of the company MYR 7,412,000 or 6.50 sen per basic share, **profit before taxation was MYR 14,204,000** and profit from operations was $14,227,000 on revenue of MYR 42,606,000 compared to profit of MYR 7,687,000 and profit attributable to equity holders of the company MYR 6,631,000 or 5.81 sen per basic share, profit before taxation was MYR 8,667,000 and profit from operations was $8,885,000 on revenue of MYR 41,062,000 for the same period a year ago. Net cash generated from operating activities was $14,093,000 compared to net cash used in operating activities of $10,655,000 for the same period a year ago. Amount spent on addition of biological assets and property, plant and equipment was MYR 19,091,000 compared to MYR 18,526,000 for the same period a year ago. Earnings before interest, tax, depreciation and amortization was MYR 22.6 million.

Glenealy Plantations Malaya Bhd, Annual General Meetings, Nov 03, 2010

10/12/2010

Glenealy Plantations Malaya Bhd, Annual General Meetings, Nov 03, 2010., at 07:11 Indian Standard Time. Location: Raya Room, Mezzanine Floor. Agenda: To receive and consider the Audited Financial Statements for the year ended June 30, 2010 together with the Reports of the Directors and Auditors thereon; to declare a first and final dividend of 10.0 sen per share less income tax for the year ended June 30, 2010; to consider and if thought fit, to discuss re-appointment of directors; to re-elect Encik Md Yusof bin Hussin who retires as a Director of the company pursuant to Article 89 of the Company's Articles of Association; to re-appoint Messrs. PricewaterhouseCoopers as Auditors of the company to hold office until the conclusion of the next Annual General Meeting of the company at a remuneration to be determined by the Directors; to propose renewal of shareholders buy back authority.

http://investing.businessweek.com/research/stocks/snapshot/snapshot.asp?ticker=GLP:MK

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း
ဦးဆောင်ညွှန်ကြားရေးမှူးရုံး
ရုံးအမှတ်(၅၀)
နေပြည်တော်

စာအမှတ်၊စက်မှုသီးနှံ/စီမံကိန်း/IR-၀၂၅/၂၀၁၀(၅၁၁)
ရက်စွဲ ၊ ၂၀၁၀ ပြည့်နှစ်၊ အောက်တိုဘာလ (၂၆) ရက်

သို့

ညွှန်ကြားရေးမှူးချုပ်
စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန

အကြောင်းအရာ။ မလေးရှားနိုင်ငံ Prestige Platform Sdn BHD နှင့် မြန်မာနိုင်ငံတော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီတို့ပူးပေါင်း၍ တနင်္သာရီတိုင်းဒေသကြီး မနိုးရုံးဒေသတွင် ဆီအုန်း(၃၀၀၀၀)ဧကစိုက်ပျိုးရန် အဆိုပြုလွှာအား ပြင်ဆင်တင်ပြခြင်းကိစ္စ

ရည်ညွှန်းချက်။ (၁)မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်လုပ်ငန်းဌာန၏ (၁၃.၁၀.၂၀၁၀) ရက်စွဲပါစာအမှတ်၊ နှစ်ရှည်/စီမံကိန်း/၁၀၁၅/၂၂၄/၂၀၁၀

(၂)စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန၏ (၂၀.၁၀.၂၀၁၀) နေ့စွဲပါစာအမှတ်၊ ၁၁/ MRPP (၇၅၄/၂၀၁၀)

၁။ မြန်မာနိုင်ငံသားကုမ္ပဏီဖြစ်သည့် တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီနှင့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd ကုမ္ပဏီတို့ပူးပေါင်း၍ Myanmar Royal Prestige Plantation Co., Ltd (MRPP) တည်ထောင်ကာ တနင်္သာရီတိုင်းဒေသကြီး မနိုးရုံးဒေသတွင် မြေဧက(၅၀၀၀၀)ဧကရယူ၍ ဆီအုန်း(၃၀၀၀၀)ဧက စိုက်ပျိုးထုတ်လုပ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရန် အဆိုပြုလွှာပြင်ဆင်တင်ပြမှုအား နှစ်ရှည်ပင်လုပ်ငန်းဌာနကစိစစ်ပြီး ရည်ညွှန်းစာ(၁)ဖြင့် ဝန်ကြီးရုံးသို့တင်ပြမှုအပေါ် စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာနက ရည်ညွှန်းစာ(၂)ဖြင့် မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၏ သဘောထားမှတ်ချက်နှင့်တင်ပြရန် အကြောင်းကြားလာပါသည်။

၂။ စိုက်ပျိုးမြေနှင့်ပတ်သက်၍ MRPP ကုမ္ပဏီအနေဖြင့် မြေဧရိယာ (၅၀၀၀၀)ဧကရယူပြီး (၃၀၀၀၀)ဧကစိုက်ပျိုးမည်ဖြစ်ရာ ရယူသည့်ဧရိယာ၏ (၆၀%) ဖြစ်သဖြင့် အမှန်စိုက်ပျိုးနိုင်

ထားသောမြေ၊ မစိုက်ပျိုးနိုင်သောမြေပမာဏများကို ခေတ်မီတိုင်းတာမှု (ဥပမာ-Remote Sensing) များဖြင့် အနီးစပ်ဆုံးခန့်မှန်းတိုင်းတာပြီး လျာထားမှုနှင့် [illegible] စိစစ်ထားသင့်ပါသည်။

၃။ စိုက်ပျိုးမည့်အစီအစဉ်တွင် ဖော်ပြထားချက်အရ ဧကအားလုံး (၃၀၀၀၀)ဧကအား ပထမနှစ်ကေ (၁၀၀၀) မှစတင်စိုက်ပျိုးပြီး တတိယနှစ်အထိ တစ်နှစ်လျှင်ဧက(၂၀၀၀)စီတိုး၍ စိုက်ပျိုးပြီး စတုတ္ထနှစ်မှ ဆဋ္ဌမနှစ်အထိ တစ်နှစ်လျှင်ဧက(၁၀၀၀)စီတိုး၍ ဧက (၃၀၀၀၀) အား (၆)နှစ်အတွင်း အပြီးစိုက်ပျိုးမည်ဖြစ်ရာ စိုက်ပျိုးမည့်အစီအစဉ်မှာ သင့်လျော်မှုရှိပါသည်။ သို့ရာတွင် စိုက်ပျိုးမှုလုပ်ငန်းသဘောသဘာဝအရ ပထမနှစ် စိုက်ပျိုးမှုမတိုင်မီ အကြိုနှစ်လုပ်ငန်း ဆောင်ရွက်ရသည်ဖြစ်ရာ အကြိုနှစ်လုပ်ငန်းဆောင်ရွက်မှုနှင့် ရင်းနှီးမြှုပ်နှံမှုပမာဏကို လျာထားဖော်ပြသတ်မှတ်ရမည်ဖြစ်ပြီး လိုအပ်သော မျိုး၊ စက်ယန္တယား၊ လုပ်သားစသည့်သွင်းအားစုများ ကြိုတင်ဖြည့် ဆည်းထားမှုရှိရမည်ဖြစ်ပါသည်။

၄။ ဆီသီးနိုင်အထွက်နှုန်းအား အပင်(၄)နှစ်သားတွင် တစ်ဧကပျမ်းမျှ(၄)တန်နှုန်းနှင့် ဆီသီးနိုင်အများဆုံးထွက်ရှိသည့် အပင်သက် (၁၃)နှစ်မှ(၁၈)နှစ်တွင် တစ်ဧကအထွက်တန်(၁၂)တန်နှုန်းဖြင့် တွက်ချက်ထားပါသည်။ AIG (ကိုရီးယား)ကုမ္ပဏီ အဆိုပြုအထွက်နှုန်းနှင့် နှိုင်းယှဉ်ပါကသင့်တော်သော်လည်း ကုမ္ပဏီ(၂)ခု၏ ဒေသကွာခြားမှုကြောင့် အမှန်အကယ်ထွက်ရှိနိုင်မှုကိုအသုံးပြုမည့်မျိုးနှင့် ကွင်းဆင်းလေ့လာချက် (Feasibility Study Analysis) များအခြေခံ၍ နားလည်ကျွမ်းကျင်သူများဖြင့် စိစစ်တင်ပြခြင်းဖြစ်ရပါမည်။

၅။ ဆီသီးနိုင်(၁)တန်၏ဈေးနှုန်းအား ကာလပေါက်ဈေး မြန်မာကျပ်ငွေ(၅၂၀၀၀)ကျပ်ဖြင့်လည်းကောင်း၊ အမေရိကန်(၁)ဒေါ်လာအား မြန်မာကျပ်ငွေ(၁၀၀၀)ကျပ်ဖြင့်လည်းကောင်း ဈေးနှုန်းသင့်တွက်ချက်ထားသည်ကို တွေ့ရှိရပါသဖြင့် ကုန်ပစ္စည်းထွက်ရှိချိန်၌ ဆီသီးနိုင်၏ (၁)တန်ဈေးနှုန်းနှင့်(၁)ဒေါ်လာနှင့်ညီမျှသော မြန်မာကျပ်ငွေကာလပေါက်ဈေးနှုန်းမှာ အပြောင်းအလဲ ရှိနိုင်ပါသောကြောင့် အဆိုပါတန်ဘိုးသင့်တွက်ချက်မှုပြောင်းလဲနိုင်မှုအား ကြိုတင်ညှိနှိုင်းဆွေးနွေးထားရန်လိုအပ်မည်ဖြစ်ပါသည်။

၆။ Product Sharing ခွဲဝေမှုနှင့်ပတ်သက်၍ တွက်ချက်တင်ပြရာတွင် ဆီအုန်းသီးနှံပင်၏ စိုက်ပျိုးသုတ်လုပ်မှုသက်တမ်းအရ အသီးစတင်သီးသည့် ၄နှစ်မှ၁၀နှစ်အထိ အနည်းဆုံး ၂၅% မှ ဆီသီးနိုင်အများဆုံးထွက်ရှိမှုကာလ အပင်သက်တမ်း၁၅ နှစ် မှ ၁၈ နှစ်အထိ အများဆုံး ၇.၁% အထိ နိုင်ငံတော်မှခွဲဝေမှုအချိုး ပျမ်းမျှ ၄.၁၂% ဖြင့် ခွဲဝေထားရာ ကိုရီးယားနိုင်ငံAIG ကုမ္ပဏီမှ အဆိုပြုတင်ပြလာသည့် ခွဲဝေမှုအချိုးအတိုင်းဖြစ်ပါ၍ သင့်တော်ပါသည်။

<u>လျှို့ဝှက်</u>

၅၃

၇။ တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်သည် တိုင်းရင်းသားပိုင်ကုမ္ပဏီအနေဖြင့် တနင်္သာရီတိုင်းဒေသကြီး မန်းရုံးဒေသတွင် ဆီအုန်းစိုက်ပျိုးရေးအတွက် မြေဧက(၅၀၀၀၀) အား တနင်္သာရီတိုင်းဒေသကြီး အစားထိုးသစ်တောစိုက်ပျိုးရေးကော်မတီမှ (၁၆.၉.၂၀၀၈)ရက်နေ့တွင် မြေဧက(၃၀၀၀၀) ကို ကြိုတင်လုပ်ကိုင်ခွင့်ချထားပေးခဲ့ခြင်းဖြစ်ရာ မလေးရှားနိုင်ငံ Prestige Platform Sdn BHD နှင့် မြန်မာနိုင်ငံ တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီ လီမိတက်တို့ ရင်းနှီးမြှုပ်နှံမှုပူးပေါင်း၍ (၂၀း၈၀) ဖြင့် ဆီအုန်းစိုက်ပျိုးရေးလုပ်ငန်းကို အဆိုပါ မြေနေရာပေါ်တွင် ဆောင်ရွက်မည်ဆိုပါက တိုင်းရင်းသားကုမ္ပဏီအနေဖြင့် ထည့်ဝင်သော (၂၀%) တွင် မြေယာရရှိထားမှုအတွက် တန်ဖိုးသင့် ထည့်ဝင်ခွင့်မရှိ၍ ထည့်ဝင်ဖော်ပြမထား သော်လည်း အဆိုပါမြေတွင် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှု ပူးပေါင်းဆောင်ရွက်မှုအတွက် ဖက်စပ်ကုမ္ပဏီသဘောမျိုးသက်ရောက်နေ၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပုံစံ၊ လုပ်ထုံးလုပ်နည်း နှင့်အညီ ကိုက်ညီအောင် ဆောင်ရွက်ရန်လိုအပ်ပါမည်။

၈။ ထုတ်လုပ်မှုကုန်ပစ္စည်းအပေါ် ခွဲဝေခံစားခြင်းသဘောတူစာချုပ်(မူကြမ်း)အပေါ် ဘဏ္ဍာရေး နှင့်အခွန်ဝန်ကြီးဌာန၊ ရှေ့နေချုပ်ရုံးနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာနတို့၏ အကြံပြု သဘောထားမှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်။ အဆိုပါ မှတ်ချက်များအား လိုက်နာဆောင်ရွက်မှုကို စိစစ်ရာတွင်

(က) ရှေ့နေချုပ်ရုံးအကြံပြုတင်ပြချက် အပိုဒ်၃(က)အရ Article (2,4) အား ပယ်ဖျက် သင့်ကြောင်း အကြံပြုချက်အား ပယ်ဖျက်ထားသည်ကို တွေ့ရှိရပါသည်။

(ခ) Article (4)၏ မူလစာချုပ်ပါရှိသည့်ခေါင်းစဉ် Tenancy of Land အား ပြင်ဆင်သည့် စာချုပ်တွင် the Utilization of the granted Land ဟု ပြောင်းလဲ ပြင်ဆင်ထားသည်ကို တွေ့ရှိရပြီး Tenancy of Land ပါရှိသည့် Article (5.2) အား ပြန်လည်ပြင်ဆင်ထားသည်ကို တွေ့ရှိရပါသည်။

(ဂ) ထုတ်ကုန်ထုတ်လုပ်ခြင်းမပြုမီကာလအတွင်း ဌာနအနေဖြင့် ရရှိသည့်အကျိုး အမြတ်မှမရှိသည်ကို သတိပြုသင့်သည့်အချက်အား နိုင်ငံခြားစီးပွားဆက်သွယ်ရေး ဦးစီးဌာနမှလည်း မြေငှားရမ်းခကောက်ခံရန် အကြံပြုထားပါသဖြင့် မကောက်ခံ ခြင်းအား ဌာနအနေဖြင့် ရှင်းလင်းတင်ပြရန် (သို့မဟုတ်) လိုအပ်သလို ညှိနှိုင်း ဆွေးနွေးရန်လိုအပ်ပါမည်။

<u>လျှို့ဝှက်</u>

(ဃ) စာချုပ်မူကြမ်းပါ Article (6.1)ပါရှိသည့် ၁၉၈၇ ခုနှစ် မရွှေ့မပြောင်းနိုင်သော ပစ္စည်း လွှဲပြောင်းခြင်းကို ကန့်သတ်သည့် ဥပဒေနှင့်ညီညွတ်ခြင်းမရှိသည့် assign စကားရပ်အစား ရှေ့နေချုပ်ရုံး၏ပြင်ဆင်ချက်အတိုင်း MICDE (PCFD) shall grant the utilization of the land to MRPP ဟု ပြင်ဆင်ထားကြောင်း တွေ့ရှိရပါသည်။

(င ) စာချုပ်ပါအပိုဒ်ခွဲ(6.3)ပါတာဝန်များကို ဌာနမှဆောင်ရွက်ပေးနိုင်မှု ရှိ/မရှိ စိစစ်ရန် အကြံပြုချက်အရ ဌာနအနေဖြင့် အဆိုပါလုပ်ငန်းများကို တာဝန်ခံဆောင်ရွက်ပေးရန်မဟုတ်ဘဲ မြန်မာနိုင်ငံ၏တည်ဆဲဥပဒေများအရ ကူညီဆောင်ရွက်ပေးရန်သာ ဖြစ်ရပါမည်။

(စ ) စာချုပ်ပါအပိုဒ်ခွဲ (6.10) စာပိုဒ်မှာ ရှင်းလင်းမှုမရှိဟုဆိုခြင်းအပေါ် ဌာနမှစိစစ်၍ ပြန်လည် ပြင်ဆင်ရေးသားသည်ဖြစ်ရာ လိုအပ်ပါက ရှေ့နေချုပ်ရုံးသို့ အသိပေးသင့်ပါသည်။

(ဆ) စာချုပ်မူကြမ်းပါ Article (7.2) တွင် စာချုပ်သက်တမ်းတိုးမြှင့်မည့် စည်းကမ်းချက်ကို (၁)နှစ်အတွက် အကြိမ်မည်မျှတိုးမြှင့်မည်ဖြစ်ကြောင်း ရှင်းလင်းစွာဖော်ပြရန် လိုအပ်ပါသည်ဆိုသည့်အချက်အား ကုမ္ပဏီဘက်မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏စည်းကမ်းချက်များအတိုင်း လိုက်နာဆောင်ရွက်မည်ဟု ပြင်ဆင်ထားသည်ကို တွေ့ရှိပါသည်။

(ဇ ) ရှေ့နေချုပ်ရုံး၏အကြံပြုချက် အပိုဒ်ခွဲ၃(ည)အကြံပြုချက်အပေါ် မူကြမ်း၏ Article 8.1 နှင့် 8.2 အနက် Article 8.2 အား လုံးဝပယ်ဖျက်ထားသည်ကို တွေ့ရှိရပြီး Article 8.1အား ပြန်လည် ပြင်ဆင်ထားသည်ကို တွေ့ရှိရပါ၍ ရှေ့နေချုပ်၏ အကြံပြုချက် ပြန်လည်ရယူသင့်ပါသည်။

(ဈ ) ရှေ့နေချုပ်ရုံးမှ Annex .2 မပါရှိဟုဖော်ပြထားသဖြင့် ကုမ္ပဏီဘက်မှ Article 9၊ Annex 2 ၊ Performance guarantee အား ဖြည့်စွက်တင်ပြထားသည်ကို တွေ့ရှိရပြီး ရှေ့နေချုပ်ရုံး၏ အကြံပြုတင်ပြချက်အတိုင်း မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ်မှသတ်မှတ်ထားသည့် ဘဏ်အာမခံပုံစံဟုတ်မဟုတ်နှင့် စာချုပ်ပါစည်းကမ်းချက်များနှင့် ညီညွတ်ခြင်းရှိမရှိ စိစစ်တင်ပြရန်လိုပါသည်။

(ည) စာချုပ်ပါ Article (17) Arbitration တွင် အငြင်းပွားမှုပေါ်ပေါက်လာလျှင် နှစ်ဖက်ငြိမ်းချမ်းစွာဖြေရှင်းရန်နှင့် ထိုသို့ဖြေရှင်း၍မရပါက UNCITRAL

RULES ဖြင့် Singapore Committee Center တွင်ဖြေရှင်းပေးရန် ဖော်ပြထားချက်အား ရှေ့နေချုပ်ရုံးမှ အကြံပြုထားသည့်အတိုင်း ကုမ္ပဏီဘက်မှ UNCITRAL RULES ဖြင့် မြန်မာနိုင်ငံတွင် ဖြေရှင်းပါမည်ဟု ပြင်ဆင်စာချုပ်ချုပ်ဆိုထားသည်ကို တွေ့ရှိရပါသည်။

(၄) ရှေ့နေချုပ်ရုံးမှ လိုအပ်သည့်ပြင်ဆင်ရမည့်အချက်များအား မင်နီဖြင့်ဖော်ပြထားသည်များအား ကုမ္ပဏီဘက်မှ ပြန်လည်ပြင်ဆင်ဖြည့်စွက်ထားသည်ကို တွေ့ရှိရပါသည်။

(၅) ရှေ့နေချုပ်ရုံး၏အကြံပြုချက်အပိုဒ်(၄)အရ ယခင်နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့၏ (၂၆.၁.၉၅) ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ် ၁၂/၉၅နှင့် ညီညွတ်ခြင်းရှိမရှိကို ဌာနအနေဖြင့် စိစစ်ထားရှိရမည်ဖြစ်ပါသည်။

(၆) ရှေ့နေချုပ်ရုံးမှ အကြံပြုထားသည့် Myanmar Royal Prestige Plantation Co., Ltd သည် သက်ဆိုင်ရာနိုင်ငံ၏ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီဟုတ်မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိမရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်ခန့်အပ်ထားခြင်း ခံရသူဟုတ်မဟုတ်စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများတောင်းယူစိစစ်သင့်သည့်အကြံပြုချက်အား နှစ်ရှည်ပင်နှင့်ဆိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန(နှစ်ရှည်ပင်လုပ်ငန်း) မှ ကုမ္ပဏီ၏ပိုင်မာမှုအား စုံစမ်း၍ မူရင်းစာရွက်စာတမ်းများဖြင့် အခိုင်အမာအတည်ပြုချက်ရယူထားရန်လိုအပ်ပါသည်။

၉။ နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန၏ အကြံပြုချက်များအား စိစစ်ရာတွင်

(က) သဘောတူစာချုပ်(မူကြမ်း)ပါအပိုဒ်(၆.၁)နှင့် အပိုဒ်(၁၆)တို့တွင် မင်နီဖြင့်ပြင်ဆင်ထားသင့်သည့်အတိုင်း ချုပ်ဆိုသင့်ပါကြောင်း အကြံပြုချက်အား MRPP ကုမ္ပဏီအနေဖြင့် ပြန်လည်ဖြည့်စွက်ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။

(ခ) MRPP ကုမ္ပဏီအား ငှားရမ်းမည့်မြေဧက(၅၀,၀၀၀) အတွက် သီးခြားမြေငှားစာချုပ် ချုပ်ဆိုရန် အကြံပြုချက်အား ကုမ္ပဏီဘက်မှ သီးခြားမြေငှားစာချုပ်ချုပ်ထားခြင်း မရှိသေးသည်ကို တွေ့ရှိရပါသည်။

(ဂ) နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန၏ အကြံပြုချက်အတိုင်း ကုမ္ပဏီဘက်မှ ပြည်ထောင်စုမြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေနှင့်အထူးကုမ္ပဏီများအက်ဥပဒေတို့နှင့်အညီဆောင်ရွက်ရန် လိုအပ်ပါသည်။

၆၀။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနမှ အကြံပြုချက်များအား စိစစ်ရာတွင်

(က) အကြံပြုချက်အပိုဒ်(ဂ)အရ စာချုပ်သက်တမ်းအား မူလငှားရမ်းမှုကာလ(၃၅)နှစ်ထက်ကျော်လွန်ပြီး ထပ်မံငှားရမ်းမည့်ကာလများအတွက် မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက်အရ ဆောင်ရွက်သင့်သည့်အချက်အား ကုမ္ပဏီဘက်မှ လိုက်နာရန် လိုအပ်ပါသည်။

(ခ) အကြံပြုချက်အပိုဒ်(ဃ)အရ ငှားရမ်းဆောင်ရွက်မည့်မြေနှင့်ပတ်သက်၍ ကုမ္ပဏီဘက်မှငွေသားချေရန်မလိုပါဟု ဖော်ပြထားချက်အား ငှားရမ်းမြေမှာနိုင်ငံတော်ပိုင်မြေဖြစ်သဖြင့် မြေငှားရမ်းခ တောင်းခံသင့်သည့်အချက်မှာ နိုင်ငံတော်ဘက်မှ သင့်လျော်သည်ဟု ယူဆပါသည်။ ယခင်မပါရှိ သည့် Performance Bank Guarantee ပေးသွင်းသည့်ပုံစံ Annex-2 ၌ ထည့်သွင်းဖော်ပြထားသည်ကို တွေ့ရပါသည်။

(ဂ) အကြံပြုချက် (ဆ)အရ မမျှော်လင့်ဘဲရရှိလာသော သဘာဝသယံဇာတများ၏ပိုင်ဆိုင်ခွင့်အား ဖက်စပ်ကုမ္ပဏီသည် ဌာနနှင့်ညှိနှိုင်းနိုင်သည်ဟု ဖော်ပြချက်အား သတိပြုရန်ဆိုသည့်အချက်နှင့်ပတ်သက်၍ ယခင် AIG (ကိုရီးယား)ကုမ္ပဏီ၏အဆိုပြုလွှာအပေါ် ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်အတိုင်း ပြင်ဆင်ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

(ဃ) ဘဏ္ဍာအခွန်အကြံပြုတင်ပြချက်အပိုဒ်(ည)အရ ထွက်ရှိလာသည့်ဆီအုန်း၊ စားအုန်းဆီနှင့် ဘေးထွက်ပစ္စည်းများအား စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့မှစ၍ မြန်မာကျပ်ငွေဖြင့်ရောင်းချပါက ကုန်သွယ်လုပ်ငန်းခွန်မကျသင့်သော်လည်း ကုန်ပစ္စည်းများအား ပြည်ပသို့တင်ပို့၍ နိုင်ငံခြားငွေဖြင့်ရောင်းချပါက အဆိုပါရောင်းချငွေအပေါ် ကုန်သွယ်လုပ်ငန်းခွန်(၈%)ကို နိုင်ငံခြားငွေဖြင့်ပေးဆောင်ရန် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၏(၃၁.၁၂.၂၀၁၄) ရက်စွဲပါစာအမှတ်၊၂/၂၀၁၁ အား ကုမ္ပဏီဘက်မှ လိုက်နာဆောင်ရွက်ရေး ဝန်ခံကတိပြုထားရန်လိုအပ်ပါမည်။

(င) ဘဏ္ဍာအခွန်အကြံပြုတင်ပြချက်အပိုဒ်(ဋ)နှင့်(ဌ)တို့အရ အဆိုပါ(MRPP) မှ အခြားကုမ္ပဏီတစ်ခု(သို့မဟုတ်)အခြားသူတစ်ဦးသို့ ထပ်ဆင့်ငှားရမ်းလုပ်ကိုင်စေပါက နိုင်ငံသား (သို့မဟုတ်) ပြည်တွင်းနေနိုင်ငံခြားသားဖြစ်ပါက ဝင်ငွေခွန်(၃%)၊ ပြည်ပနေနိုင်ငံခြားသားဖြစ်ပါက ဝင်ငွေခွန်(၃.၅%)ကို ထုတ်ပေးချိန်တွင် ငွေထုတ်ပေးရန် တာဝန်ရှိသူမှ ဖြတ်တောက်ပေးသွင်းရန် တာဝန်ရှိသည်ဆိုသည့်အချက်နှင့်

အဆိုပါလုပ်ငန်းကို မြန်မာနိုင်ငံအတွင်းဆောင်ရွက်ရာ၌ ဝင်ရောက်လုပ်ကိုင်သော ပြည်တွင်းနေနိုင်ငံခြားသားနှင့် နိုင်ငံသားကျွမ်းကျင်သူများ၊ အင်ဂျင်နီယာများ၊ အတိုင်ပင်ခံများသည် ၎င်းတို့ရရှိသည့်နိုင်ငံခြားငွေဖြင့် လစာငွေစုစုပေါင်းအပေါ် ဝင်ငွေခွန်(၁၀%)ကိုလည်းကောင်း၊ ပြည်ပနေနိုင်ငံခြားသားဖြစ်ပါက စုစုပေါင်းဝင်ငွေအပေါ် ဝင်ငွေခွန်(၃၅%)လည်းကောင်း၊ ထုတ်ပြန်ကြေငြာထားသည့် အမိန့်ကြေငြာစာများအတိုင်း ပေးဆောင်ရန် ငွေထုတ်ပေးသူမှ ဖြတ်တောက်ပေးသွင်းရန် လိုအပ်သည်ဆိုသည့်အချက်များအား နှစ်ရှည်ပင်လုပ်ငန်းအနေဖြင့် ကုမ္ပဏီအား ကြိုတင်အသိပေးညှိနှိုင်းထားရမည်ဖြစ်ပါသည်။

၁၁။ ထို့ပြင် တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ ၁၅.၉.၂၀၁၀ ရက်စွဲပါစာအမှတ် ၃၄၃၁/၅၁၄/၅-၄/တယက(ပြာနသ်ထိုး)အရ ဘောင်သူများလုပ်ကိုင်နေသည့်ဧရိယာများ ချန်လှပ်ပြီး ခွင့်ပြုခြင်းဖြစ်ပါသဖြင့် တောင်သူဧရိယာမထိခိုက်ပျက်စီးစေရန်ကုမ္ပဏီမှ သတိပြုဆောင်ရွက်ရန် လိုအပ်ပါမည်။ စီမံချက်ပါအတိုင်း စိုက်ပျိုးခြင်းမရှိပါက မြေပြန်သိမ်းရန်ဆိုသည့် အချက်အား ကုမ္ပဏီမှ လိုက်နာရန် ဝန်ခံကတိပြုထားရှိရန်လိုအပ်ပါမည်။

၁၂။ သစ်တောဦးစီးဌာန၏ ၅.၇.၂၀၁၀ ရက်စွဲပါစာအမှတ် ၆၅၉၂-၆၅၃၅/စ(ဘ)၂၈၏ အပိုဒ် ၂ ကာဖေ့ပါအတိုင်း မြေဧက(၃၀၀၀၀) စိုက်ပျိုးခွင့်ရရှိသည့် မြေသည်သစ်တောမြေအတွင်းကျရောက်ခြင်းမရှိသော်လည်း သစ်တောဖုံးလွှမ်းပါက သစ်တောပန်ကြီးဌာန၏သဘောတူခွင့်ပြုချက်ရယူရန်နှင့်လုပ်ကိုင်ဆောင်ရွက်မှုအတွက် သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးစေခြင်း မရှိမှခွင့်ပြုမည်။ သတ်မှတ်ခွင့်ပြုထားသောကိစ္စရပ်များကိုသာ ဆောင်ရွက်ခွင့်ရှိသည်စသည့်အရာများအား ကုမ္ပဏီမှလိုက်နာဆောင်ရွက်ရန်လိုအပ်ပါသည်။

၁၃။ ဖော်ပြပါအချက်များအပြင် ကိုရီးယားနိုင်ငံ AIG ကုမ္ပဏီ အဆိုပြုတင်ပြချက်အပေါ် မြေပေါ်မြေအောက်သယံဇာတဆည်ရှိမှုများနှင့်ပတ်သက်၍ အစိုးရအဖွဲ့၏ (၂.၉.၂၀၁၀)နေ့အစည်းအဝေးအမှတ်စဉ်(၃၄/၂၀၁၀)တွင် ဝန်ကြီးချုပ်၏လမ်းညွှန်ချက်များကို လိုက်နာဆောင်ရွက်ရမည်ဖြစ်ပြီး ထိုသို့ ဆောင်ရွက်ခဲ့မှုအတွက် လိုအပ်သောအထောက်အထား အပြည့်အစုံဖြင့် တင်ပြရန်လိုအပ်ပါမည်။

၁၄။ MIC PP ကုမ္ပဏီ၏အနေဖြင့် ရင်းနှီးမြှုပ်နှံမည့်ငွေကြေးနှင့် စီမံကိန်းပြည့်စုံမှုအတွက်

(က) ဆီးနှံ့ပုံနိုင်ငံဖွံ့ဖြိုးမြင့်မားမှု ထိခြေမြေ အသန့်ယုံကြည်မှုမြင့်မားရေး ပြည်သူနည်းပညာအသောစ်အလေ့ကျင့်များရရှိနိုင်ခြင်းပြီး ရည်မှန်းထားသောစီမံကိန်းကာ (၅)သိန်း ပြည့်မှီစေရေးအတွက် အထောက်အကူပြုနိုင်ခြင်း

(ခ) စားအုန်းဆီထုတ်လုပ်၍ ပြည်တွင်းဖြန့်ဖြူးရောင်းချခြင်းနှင့် ပြည်ပသို့တင်ပို့ခြင်း လုပ်ငန်းရပ်များပါဝင်သဖြင့် ပြည်တွင်းစားသုံးဆီဖူလုံရေးအတွက် တဖက်တလမ်းမှ အထောက်အကူပြုနိုင်ခြင်းနှင့် ပြည်ပမှစားသုံးဆီတင်သွင်းမှုကို လျှော့ချနိုင်မည်ဖြစ်ခြင်း၊

(ဂ) ကုမ္ပဏီ၏စိုက်ခင်းနှင့်အခြားတောင်သူများအတွက် လိုအပ်သည့်ဆီအုန်းမျိုးစေ့ကို စီးပွားဖြစ်ပျိုးခြံတည်ထောင်၍ စိုက်ပျိုးထုတ်လုပ်မည်ဖြစ်သဖြင့် တောင်သူများ အနေဖြင့် ပြည်ပအထွက်ကောင်းမျိုးများကို ရရှိစိုက်ပျိုးနိုင်မည့်အခွင့်အလမ်းများ ရရှိနိုင်ခြင်း၊

(ဃ) ရင်းနှီးမြှုပ်နှံမှုမှ နိုင်ငံတော်အတွက် ခန့်မှန်းဝင်ငွေရရှိနိုင်မှုအနေဖြင့် စီမံကိန်း သက်တမ်း (၃၅)နှစ်ကုန်ဆုံးချိန်တွင် ဆီသီးခိုင်ထုတ်လုပ်ခြင်းမှ US$ (၁၆.၅၂၇) သန်း၊ ဆီကြမ်းထုတ်လုပ်ခြင်းမှ US$ (၃၁.၇၈၁) သန်း၊ ဆီသန့်ထုတ်လုပ်ခြင်းမှ US$ (၄၆.၂၄၂)သန်းဖြင့် စုစုပေါင်း US$ (၉၄.၅၅) သန်း ဝင်ငွေရရှိနိုင်မည် ဖြစ်ခြင်း စသည့်အကျိုးကျေးဇူးများရရှိနိုင်ပါသည်။

၁၅။ သို့ဖြစ်ပါ၍ MRPP ကုမ္ပဏီအနေဖြင့် ရင်းနှီးဆောင်ရွက်မှုလုပ်ငန်းအား သက်ဆိုင်ရာ ကဏ္ဍအလိုက် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ သဘောထားအကြံပြုချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
(ဇော်ဝင်း၊ အထွေထွေမန်နေဂျာ)
စီမံကိန်းဌာနခွဲ

မိတ္တူ

- ရုံးအဖွဲ့မှူး၊ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
- နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန
- ရုံးလက်ခံ
- မျှောစာတွဲ

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
## လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
## မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း
## နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း)

စာအမှတ် ၊ နှစ်ရှည်/စီမံကိန်း/၁၀၁၅/ ၂၂၄ /၂၀၁၀

ရက်စွဲ ၊ ၂၀၁၀ ပြည့်နှစ် အောက်တိုဘာ လ (၁၃)ရက်

သို့

ရုံးအဖွဲ့မှူး
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့် မြန်မာနိုင်ငံ တော်ဇင်ရွှေပုလဲ စက်မှုလုပ်ငန်းကုမ္ပဏီတို့ ပူးပေါင်း၍ တနင်္သာရီတိုင်းဒေသကြီး မနိုးရုံးဒေသ တွင် ဆီအုန်း (၃၀၀၀၀) ဧက စိုက်ပျိုးရန် အဆိုပြုလွှာအားပြန်ဆင်တင်ပြခြင်း

ရည်ညွှန်းချက် ။ (၁) နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း) ၏ (၁၇.၅.၂၀၁၀) ရက်စွဲပါ စာအမှတ် နှစ်ရှည်/စီမံကိန်း/၁၀၁၅/ ၃၉/ ၂၀၁၀

(၂) စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန၏ (၁၆.၉.၂၀၁၀)ရက်စွဲပါ စာအမှတ်၁၁/MRPP (၇၆၁/၂၀၁၀)

၁။ နိုင်ငံသားကုမ္ပဏီဖြစ်သည့် တော်ဝင်ရွှေပုလဲကုမ္ပဏီလီမိတက်သည် တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ် မနိုးရုံးဒေသတွင် မြေဧရိယာ (၅၀၀၀၀)ဧက ၌ ဆီအုန်းဧက (၃၀၀၀၀) စိုက်ပျိုး ထုတ်လုပ်သည့် လုပ်ငန်းအကောင်အထည်ဖော်နိုင်ရန် ဆောင်ရွက်လျှက်ရှိရာတွင် စီမံကိန်းလုပ်ငန်း အောင်မြင်စေရေးအတွက် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့် အစုရှယ်ယာ (၂၀% ፥ ၈၀%) ဖြင့် ဖက်စပ်ကုမ္ပဏီဖွဲ့စည်းကာ ပူးပေါင်းဆောင်ရွက်လိုကြောင်း ၎င်းတို့၏ ပဏာမလုပ်ငန်း အစီရင်ခံစာကို (၁၅.၂.၂၀၁၀)ရက်နေ့တွင် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီး ဌာန၊ ဝန်ကြီးထံ တင်ပြခဲ့ပါသည်။

၂။ တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီမှ တင်ပြခဲ့သည့် မြေဧရိယာ (၅၀၀၀၀) ဧကတွင် ဆီအုန်း (၃၀၀၀၀) ဧက စိုက်ပျိုးထုတ်လုပ်မှုဆောင်ရွက်မည့် လုပ်ငန်းအစီရင်ခံစာအပေါ် ဝန်ကြီးမှ " Product Sharing စနစ်ဖြင့် ဆောင်ရွက်နိုင်ရေး ဆွေးနွေးဆောင်ရွက်ပါ၊ ဆောင်ရွက်မှုတင်ပြပါ " ဟု မှတ်ချက် ပြုခဲ့ပါသည်။

နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း) ဦးဆောင်ညွှန်ကြားရေးမှူးသည် ...ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီ၏ Managing Director ဖြစ်သူ ဦးပြည်စိုး ၊ မလေးရှားနိုင်ငံ Prestige Platform Sdn Bhd ၏ Chief Operating Officerဖြစ်သူ Mr.Ng Chee Joong တို့အား (၆.၄.၂၀၁၀)နေ့ကနှစ်ရှည်ပင်လုပ်ငန်းတွင်တွေ့ဆုံပြီး တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင် ၊ မန်းရုံးဒေသ တွင် မြေဧရိယာ (၅၀၀၀၀) ပေါ်တွင် ဆီအုန်း (၃၀၀၀၀) ဧက စိုက်ပျိုးထုတ်လုပ်လိုသည့် လုပ်ငန်းအား မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့်ပူးပေါင်း၍ (၁၀၀%) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်ကာ နိုင်ငံတော်အစိုးရနှင့် Product Sharing စနစ်ဖြင့်ဆောင်ရွက်နိုင်ပါကြောင်း၊ ဆောင်ရွက်ရန်လိုအပ်သည့် လုပ်ငန်းစဉ်များကို ရှင်းလင်းဆွေးနွေးခဲ့ပါသည်။ ပထမဦးစွာ လုပ်ငန်းဆောင်ရွက်မည့်ဒေသသို့ Feasibility Study သွားရောက်ခဲ့သည့် အခြေအနေကို တင်ပြရန်လိုအပ်ကြောင်း ဆွေးနွေးခဲ့ပါသည်။ ဆွေးနွေးမှု ...တမ်းအား (၉.၄.၂၀၁၀) နေ့ ရက်စွဲပါ စာအမှတ် နှစ်ရှည်/ စီမံကိန်း / ၁၀၁၅ / ၈၈ /၂၀၁၀ ဖြင့် တင်ပြခဲ့ပါသည် ။

၄။ ဆွေးနွေးညှိနှိုင်းမှုများ ပြုလုပ်ပြီး တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီသည် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့် အစုရှယ်ယာ (၂၀% : ၈၀%) အချိုးနှုန်းဖြင့် ပူးပေါင်း၍ Myanmar Royal Prestige Plantation Co,. Ltd တည်ထောင်ကာ ဆီအုန်းစိုက်ပျိုးခြင်း၊ စားအုန်းဆီ ထုတ်လုပ်ခြင်း လုပ်ငန်း၌ ၁၀၀% ရင်းနှီးမြှုပ်နှံမှုပြုလုပ်၍ Product sharing စနစ်ဖြင့် ဆောင်ရွက်ရန် ၎င်းတို့၏ အဆိုပြုလွှာ(မူကြမ်း) အား တင်ပြလာခဲ့ရာ(၁၇.၅.၂၀၁၀)ရက်စွဲပါ စာအမှတ် နှစ်ရှည်/ စီမံကိန်း / ၁၀၁၅/ ၃၉/၂၀၁၀ဖြင့် ဝန်ကြီးရုံး သို့ တင်ပြခဲ့ပါသည်။

၅။ Myanmar Royal Prestige Plantation Co,. Ltd ၏ ၁၀၀% ရင်းနှီးမြှုပ်နှံမှု ဆိုင်ရာ သဘောတူ ...ချုပ် (မူကြမ်း) တင်ပြခဲ့ခြင်းနှင့် ဆက်လျဉ်း၍ ရှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ နိုင်ငံခြား စီးပွားဆက်သွယ်ရေးဦးစီးဌာန တို့၏ အကြံပြုချက်များ၊ သဘောထားများတောင်းခံခဲ့ရာ သက်ဆိုင်ရာဌာန များ မှ အကြံပြုချက်များ ၊ သဘောထားများကို တရားဝင်စာဖြင့် အကြောင်းပြန်ကြားလာခဲ့ပါသည်။

၆။ မြန်မာ့နှစ်ရှည်ပင်လုပ်ငန်း ဦးဆောင်ညွှန်ကြားရေးမှူး ဦးဆောင်သော ဌာနခွဲတာဝန်ခံများ ပါဝင် သောအဖွဲ့သည် တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီ ၏ Managing Director ဖြစ်သူ ဦးပြည်စိုး အား နှစ်ရှည်ပင်လုပ်ငန်းသို့ (၂၄.၉.၂၀၁၀)နေ့ ၊ (၈.၁၀.၂၀၁၀)နေ့ ၊ (၁၂.၁၀.၂၀၁၀) နေ့တို့တွင်ခေါ်ယူ တွေ့ဆုံ ပြီး သက်ဆိုင်ရာဌာနများ၏ အကြံပြုချက်များ ၊ သဘောထားများ နှင့်အညီ သဘောတူစာချုပ် (မူကြမ်း) တွင် ပါရှိသည့် ပြုပြင်ရမည့်အချက်အလက်များအား အသေးစိတ် ဆွေးနွေး ညှိနှိုင်းပြီး ပြင်ဆင် ဖြည့်စွက်မှု များ ပြုလုပ်ခဲ့ပါသည်။

၇။ တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီသည် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့် အစုရှယ်ယာ(၂၀%:၈၀%)အချိုးနှုန်းဖြင့် ပူးပေါင်း၍ Myanmar Royal Prestige Plantation Co,. Ltd

ဟည့်ထောင်ကာ တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင် ၊ ဘုတ်ပြင်းမြို့နယ် ၊ မနိုးရုံးဒေသတွင် စုစုပေါင်းမြေဧက (၅၀၀၀၀) ရယူ၍ ဆီအုန်းဧက (၃၀၀၀၀) အား (၆) နှစ်အတွင်း အောက်ပါအတိုင်း နှစ်အလိုက် စိုက်ပျိုးမည်ဖြစ်ပါသည် -

| | | |
|---|---|---|
| (က) | ပထမနှစ် | ၁၀၀၀ ဧက |
| (ခ) | ဒုတိယနှစ် | ၃၀၀၀ ဧက |
| (ဂ) | တတိယနှစ် | ၅၀၀၀ ဧက |
| (ဃ) | စတုတ္ထနှစ် | ၆၀၀၀ ဧက |
| (င) | ပဥ္စမနှစ် | ၇၀၀၀ ဧက |
| (စ) | ဆဋ္ဌမနှစ် | ၈၀၀၀ ဧက |
| | စုစုပေါင်း | ၃၀၀၀၀ ဧက |

၈။ Myanmar Royal Prestige Plantation Co,. Ltd သည် တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင် ၊ မနိုးရုံးဒေသတွင် ဆီအုန်းဧက (၃၀၀၀၀) အား (၆) နှစ်အတွင်း စိုက်ပျိုးခြင်း ၊ ဆီအုန်းစိုက်ပျိုးပြီး (၃) နှစ်တွင် တစ်နာရီလျှင် ဆီသီးခိုင် တန် (၄၀) မှ (၆၀) ထိ ကြိတ်ဝါးနိုင်သည့် US$ (၅) သန်းတန်ဘိုးခန့်ရှိ ဆီကြမ်းစက်ရုံ (၁) ရုံ တည်ဆောက်ပြီး ဆီကြမ်းထုတ်လုပ်မည်ဖြစ်ပါသည်။ သို့ဖြစ်၍ ဆီအုန်းစိုက်ပျိုးပြီး (၄) နှစ်မှစ၍ ဆီကြမ်း ထုတ်လုပ်နိုင်မည်ဖြစ်ပါသည်။ ဆီအုန်းစိုက်ပျိုးပြီး (၁၄) နှစ်တွင် (၁) နာရီလျှင် ဆီသန့် (၁၅) တန်မှ (၂၀) တန် ခန့်ထုတ်လုပ်နိုင်မည့် ဆီသန့်စက်ရုံ (၁) ရုံတည်ဆောက်မည်ဖြစ်၍ ဆီအုန်းစိုက်ပျိုးပြီး (၁၅) နှစ်မှစ၍ ဆီသန့်ထုတ်လုပ်နိုင်မည်ဖြစ်ပါသည် ။

၉။ ဆီအုန်းဧက (၃၀၀၀၀) စိုက်ပျိုးထုတ်လုပ်သည့်လုပ်ငန်းတွင် ရင်းနှီးမြှုပ်နှံမှုအနေဖြင့် ကနဦးရင်းနှီးမြှုပ်နှံမှုမှာ US $ (၄၀) သန်းဖြစ်ပြီး စုစုပေါင်းရင်းနှီးမြှုပ်နှံမှုတန်ဘိုးမှာ US $ (၈၀) သန်းဖြစ်ပါသည်။ ကနဦးရင်းနှီးမြှုပ်နှံမှု US $ (၄၀) သန်း၏ နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှုတန်ဘိုးမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| | | |
|---|---|---|
| (က) | ပထမနှစ် | US $ ၂.၈၀၉ သန်း |
| (ခ) | ဒုတိယနှစ် | US $ ၃.၈၃၆ သန်း |
| (ဂ) | တတိယနှစ် | US $ ၄.၁၆၃ သန်း |
| (ဃ) | စတုတ္ထနှစ် | US $ ၁၅.၁၁၀ သန်း |
| (င) | ပဥ္စမနှစ် | US $ ၆.၄၁၉ သန်း |
| (စ) | ဆဋ္ဌမနှစ် | US $ ၇.၆၆၃ သန်း |
| | စုစုပေါင်း | US $ ၄၀.၀၀၀ သန်း |

၁၀။ ယုတ်လုပ်မှုအပေါ် အကျိုးအမြတ်ခွဲဝေမှုအခန်းဖြင့် ဆီအုန်းစိုက်ပျိုးပြီး ဆီသီးခိုင်စတင်ထွက်ရှိလာသည့် အချိန်မှစ၍ အောက်ပါ Product Sharing Ratio ဖြင့် နှစ်ဦးနှစ်ဖက်အချိုးကျ ခွဲဝေမည်ဖြစ်ပါသည် -

| စဉ် | ကာလ | ခွဲဝေမည့်အချိုး |
|---|---|---|
| (က) | ဆီသီးခိုင်စတင်ထွက်ရှိချိန်မှ (၁၀) နှစ်ထိ | ၂.၅ % : ၉၇.၅% (ဆီကြမ်း) |
| (ခ) | (၁၁) နှစ်မှ (၁၄) နှစ်ထိ ထုတ်လုပ်မှု၏ | ၅% : ၉၅ % (ဆီကြမ်း) |
| (ဂ) | (၁၅) နှစ်မှ (၁၈) နှစ်ထိ ထုတ်လုပ်မှု၏ | ၇% : ၉၃ % (ဆီကြမ်း) သို့မဟုတ် (ဆီသန့်) |
| (ဃ) | (၁၉) နှစ်မှ (၂၂) နှစ်ထိ ထုတ်လုပ်မှု၏ | ၅% : ၉၅ % (ဆီကြမ်း) သို့မဟုတ် (ဆီသန့်) |
| (င) | (၂၃) နှစ်မှ နောက်ပိုင်းကာလအထိ | ၂.၅% : ၉၇.၅% (ဆီကြမ်း) သို့မဟုတ် (ဆီသန့်) |

၁၁။ ဆီအုန်းဧက (၃၀၀၀၀) အား (၆) နှစ်အတွင်းစိုက်ပျိုးပြီး Product sharing စနစ်ဖြင့် ဆောက်ရွက်ခြင်းဖြင့် ဆီသီးခိုင်အဆင့် ၊ ဆီကြမ်းအဆင့် ၊ ဆီသန့်အဆင့် ထုတ်လုပ်ခြင်းတို့တွင် (၃၅) နှစ်အတွင်း နိုင်ငံတော်မှ ရရှိမည့် ခန့်မှန်းထုတ်လုပ်မှုနှင့်ဝင်ငွေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ စုစုပေါင်း ခန့်မှန်းထုတ်လုပ်မှုနှင့် ဝင်ငွေ ၊ နိုင်ငံတော်မှ ရရှိမည့် ခန့်မှန်းထုတ်လုပ်မှုနှင့် ဝင်ငွေတွက်ချက်မှု အသေးစိတ်အား နောက်ဆက်တွဲ (က) ဖြင့် ဖော်ပြထားပါသည် -

| စဉ် | အကြောင်းအရာ | ထုတ်လုပ်မှု (မ/တန်) | ဝင်ငွေ ကျပ်သန်း | US$သန်း |
|---|---|---|---|---|
| (က) | ဆီသီးခိုင်ထုတ်လုပ်ခြင်း | ၃၁၇၈၁၅ | ၁၆၅၂၇ | ၁၆.၅၂၇ |
| (ခ) | ဆီကြမ်းထုတ်လုပ်ခြင်း | ၆၃၅၆၃ | ၃၁၇၈၁ | ၃၁.၇၈၁ |
| (ဂ) | ဆီသန့်ထုတ်လုပ်ခြင်း | ၇၇၆၇၂ | ၄၆၂၄၂ | ၄၆.၂၄၂ |

၁၂။ မြေရိယာ (၅၀၀၀၀) ဧကရယူ၍ ဆီအုန်းဧက (၃၀၀၀၀) စိုက်ပျိုးထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်မည့် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင် ၊ မနိုးရုံးဒေသ၏ တည်နေရာပြ မြေပုံအညွှန်းအရ မြန်မာပြည် မြေပုံရွက်ရေ အမှတ် (၉၈) စကေး ၁ လက်မ=၁ မိုင် ၊ မြောက်ပြေးမျဉ်း ၇၈နှင့်၆၇ ကြား ၊ ရှေ့သားမျဉ်း ၈၇နှင့်၁၆ ကြားရှိ အောက်ပါမြေပုံအညွှန်းအတိုင်းဖြစ်ပါသည် -

ခန့်မှန်း A ၈၇၀၆၇၀ မှ ခန့်မှန်း B ၈၇၀၆၉၂ မှ ခန့်မှန်း C ၉၀၀၆၉၂ မှ
ခန့်မှန်း D ၉၀၀၇၈၀ မှ ခန့်မှန်း E ၁၁၈၇၈၀ မှ ခန့်မှန်း F ၁၅၀၇၀၀ မှ
ခန့်မှန်း G ၀၅၀၇၀၀ မှ ခန့်မှန်း H ၀၅၀၆၇၀

၁၃။ မြေဧရိယာ (၅၀၀၀၀) ဧကရယူ၍ ဆီအုန်းဧက (၃၀၀၀၀) စိုက်ပျိုးရန် လျာထားသည့် တနင်္သာရီ တိုင်းဒေသကြီး ၊ မြိတ်ခရိုင် ၊ မနိုးရုံးဒေသတည်နေရာပြမြေပုံအား နောက်ဆက်တွဲ (ခ) ဖြင့် တင်ပြထားပါသည် ။

၁၄။ တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီနှင့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd တို့ ဖက်စပ် ကုမ္ပဏီဖွဲ့စည်း၍ တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင် ၊ ဘုတ်ပြင်းမြို့နယ် ၊ မနိုးရုံးဒေသတွင် ဆီအုန်း (၃၀၀၀၀) ဧက စိုက်ပျိုးရန် ၊ မြေဧရိယာ (၅၀၀၀၀) ဧက လျာထားဆောက်ရွက်မှုနှင့် ပတ်သက်၍ တနင်္သာရီတိုင်း အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊ တိုင်းမြေစာရင်းဦးစီးဌာန ၊ တိုင်းမန်နေဂျာရုံး (နှစ်ရှည်ပင်လုပ်ငန်း) တို့မှ လျာထားသည့် မြေဧရိယာနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားခဲ့ပါသည်။ ၎င်းတို့၏သဘောထားမှတ်ချက်များအား နောက်ဆက်တွဲ (ဂ) ဖြင့် ဖော်ပြထားပါသည် ။

၁၅။ တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီနှင့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd တို့သည် ဖက်စပ်ကုမ္ပဏီဖွဲ့စည်းပြီး ဆီအုန်းဧက (၃၀၀၀၀) အား (၆) နှစ်အတွင်း စိုက်ပျိုးရာတွင်လုပ်ငန်းအာမခံချက် အဖြစ် နှစ်အလိုက်ရင်းနှီးမြှုပ်နှံငွေ၏ (၃%)ကို Performance Bank Guarantee အဖြစ်ပေးဆောင်စေမည် ဖြစ်ပါသည် ။

၁၆။ တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီနှင့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd တို့အစုရှယ်ယာ (၂၀% ႏ ၈၀%) အချိုးဖြင့် ဖက်စပ်ကုမ္ပဏီ Myanmar Royal Prestige Plantation Co,Ltd တည်ထောင်ကာ တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင် ၊ မနိုးရုံးဒေသတွင် မြေဧရိယာ (၅၀၀၀၀) ရယူ၍ ဆီအုန်း ဧက (၃၀၀၀၀) စိုက်ပျိုးထုတ်လုပ်သည့် လုပ်ငန်းဆောင်ရွက်နိုင်ရန် ပြင်ဆင်ဖြည့်စွက်မှုများ ပြုလုပ်ထားသည့် အောက်ပါအချက်အလက်များပါရှိသည့် အဆိုပြုလွှာကို ပြုစုတင်ပြထားပါသည် -

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထ ပြုသူ၏လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်

(ခ) Project Schedule

(ဂ) Product Sharing

(ဃ) Cash Flow Statement

(င) Performance Bank Guarantee ပုံစံ

(စ) Product Sharing စနစ်ဖြင့် (၁၀၀%) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း)

(ဆ) တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီနှင့် Prestige Platform Sdn Bhd တို့ကြား Joint Venture Agreement

၁၄။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ ပြန်ကြားလာသည့် သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ-ဃ** ဖြင့် လည်းကောင်း၊ မှုနေချုပ်ရုံးမှ ပြန်ကြားလာသည့် သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ-င** ဖြင့် လည်းကောင်း ၊ နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန၏ သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ-စ** ဖြင့် လည်းကောင်း ပူးတွဲတင်ပြထားပါသည်။

၁၅။ သို့ဖြစ်ပါ၍ တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီနှင့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd တို့ ပူးပေါင်း၍ Myanmar Royal Prestige Plantation Co,. Ltd တည်ထောင်ကာ ကနဘ်ာရီတိုင်းဒေသကြီး အတွင်း ဆီအုန်း စိုက်ပျိုးထုတ်လုပ်သည့်လုပ်ငန်းကွက် (၁၀၀%) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ကာ နိုင်ငံတော်အစိုးရနှင့် Product Sharing စနစ်ဖြင့် ဆောင်ရွက်နိုင်ရန် တင်ပြသည့် အဆိုပြုလွှာအား သိရှိ၍ ဆက်လက်ဆောင်ရွက်မှုပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ကြည်ဝင်း
ဦးဆောင်ညွှန်ကြားရေးမှူး

မိတ္တူကို
- စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန
- ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန
- မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း
- ရုံးလက်ခံ
- မျှော

(၁၁/၂၀၁၁)ကော်မရှင်အစည်းအဝေး

အကြောင်းအရာ။ ။ Myanmar Royal Prestige Plantation Co., Ltd. (MRPP) လီမိတက်မှ တနင်္သာရီတိုင်းအတွင်း ဆီအုန်းစိုက်ဧက ၅၀၀၀၀ တိုးချဲ့ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ။

၁။ မလေးရှားနိုင်ငံမှ Prestige Platform Sdn Bhd နှင့် မြန်မာနိုင်ငံမှ တော်ဝင် ရွှေပုလဲ စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်တို့ ပူးပေါင်း၍ Myanmar Royal Prestige Plantation Co., Ltd.(MRPP) တည်ထောင်ကာ တနင်္သာရီ တိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ ဘုတ်ပြင်းမြို့နယ်၊ မန်းရုံး ဒေသရှိ ဧက (၅၀၀၀၀)တွင် ဆီအုန်းစိုက်ပျိုးထုတ်လုပ်ရေး လုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင်မှ ခွင့်ပြုမိန့် အမှတ်(၄၅၆/၂၀၁၁) (၄-၂-၂၀၁၁) ဖြင့် ခွင့်ပြုခဲ့ပါသည်။

၂။ ၎င်းတို့သည် စိုက်ပျိုးခွင့်ရသည့် မြေဧက ၃၀၀၀၀ တွင် စီမံကိန်းလုပ်ငန်းများကို အချိန်နှင့် တပြေးညီ အကောင်အထည်ဖော် ဆောင်ရွက်လျှက်ရှိပြီး ယခုအခါ ကော့သောင်း ကားလမ်းမကြီး မှ ဆီအုန်းစိုက်ခင်းသို့ လမ်းဖောက် လုပ်ခဲ့ရာ မကြာမီရက် ပိုင်းအတွင်စီမံကိန်း တည်ရှိရာ မြိတ်ခရိုင် ဘုတ်ပြင်း မြို့နယ် မန်းရုံးဒေသ သို့ ရောက်ရှိတော့မည် ဖြစ်ပါကြောင်း ၊ဆီအုန်းများ စိုက်ပျိုးရန်အတွက် တောခုတ်ထွင် ရှင်းလင်း မှု ပြီးစီးသည့် ဧကမှာ ၉၉၄ ဧကဖြစ်၍ မြေချ စိုက်ပျိုးသည့် အပင်မှာ ၁၂၀၀၀၀ ရှိပြီဖြစ်ပါကြောင်း၊ စိုက်ပျိုးပြီးသည့် ဧကမှာ ၃၀၀ ဖြစ်၍ ဖေါက်လုပ်ပြီးလမ်း (၁၅)မိုင်နှင့် တံတား ၃စင်း တည်ဆောက်ပြီး ဖြစ်ပါကြောင်း၊ တင်သွင်းပြီး သည့် ယန္တရားမှာ Buldozer (၄)စီး၊ Excavator (၂)စီး၊ Logging Truck (၁)စီး နှင့် Loader (၁)စီး စုစုပေါင်း ယန္တရား (၈)စီး ဖြင့် လုပ်ငန်းများကို ဆောင်ရွက်နေပါကြောင်း၊ လမ်း ဖောက်လုပ်ပြီးစီးမှု၊ ဆီအုန်းပျိုးပင် စိုက်ပျိုးမှု အခြေအနေများကို ဓါတ်ပုံများ ပူးတွဲ၍ တင်ပြ လာပါသည်။

၃။ ထို့ပြင် ယခု စိုက်ပျိုးခွင့်ရသည့် ဆီအုန်းစိုက်ဧက ၅၀၀၀၀ မှာ ဆီချောဆီသန့် စက်ရုံ တည်ဆောက်ရန် လုံလောက်မှု မရှိပါသောကြောင့် ဆီသန့် စက်ရုံအတွက် မြေဧက ၅၀၀၀၀ ထပ်မံတိုးချဲ့ခွင့်ပြုပါရန် ဆီအုန်းစိုက်ဧက တိုးချဲ့မည့်မြေပုံနှင့် လုပ်ငန်းဆောင်ရွက်မှု ဖော်ပြသည့် ဓါတ်ပုံ တို့နှင့်အတူ တင်ပြထားပါသည်။

၄။ Myanmar Royal Prestige Plantation Co., Ltd. မှ ဆီအုန်းစိုက်ဧက ၅၀၀၀၀ တိုးချဲ့ခွင့်ပြုပါရန် တင်ပြခြင်းကို လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနမှ တဆင့် မြန်မာ့စက်မှု သီးနှံဖွံ့ဖြိုးရေးလုပ်ငန်း၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုး မွေးမြူရေး ဌာန၏ သဘော တူညီချက်ဖြင့် ဆက်လက်တင်ပြ မည်ဖြစ်ပါကြောင်း နှင့် အခြားဌာန ဆိုင်ရာ လိုအပ်ချက်များ ကိုလည်း ဆက်လက်တင်ပြမည် ဖြစ်ပါကြောင်း ဖော်ပြထားပါသည်။

၅။ စိစစ်တွေ့ရှိချက်

- Myanmar Royal Prestige Plantation Co., Ltd. သည် အဆိုပြုချက်ပါ ဧရိယာ နှင့် တစ်ဆက်တည်းရှိသည့် ဧက (၅၀,၀၀၀) ကို ဆီအုန်းစိုက်ပျိုးခွင့် တင်ပြလာခြင်း ဖြစ်ပါသည်။
- ယခုတင်ပြလာခြင်းမှာ Myanmar Royal Prestige Plantation Co., Ltd. မှ တင်ပြလာခြင်း ဖြစ်ပြီး သတ္တုတွင်းဝန်ကြီးဌာန၊ သစ်တောရေးရာဝန်ကြီးဌာနများ နှင့် သက်ဆိုင်ရာဌာနအသီးသီး၏ သဘောထားမှတ်ချက်များအား တင်ပြရန် လိုအပ်ပါသည်။
- Product Sharing Agreement အပိုဒ် ၅.၈ တွင် Myanmar Royal Prestige Plantation Co., Ltd. ၏ လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ချက်များအား မြန်မာ့စက်မှု သီးနှံ ဖွံ့ဖြိုးရေး လုပ်ငန်း၊ နှစ်ရှည်ပင် နှင့် စိုက်ပျိုးမွေးမြူရေး လုပ်ငန်း ဌာန၏ သဘောတူညီ ချက် ရယူ၍ ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြထားပါသည်။
- စိုက်ဧကတိုးချဲ့ခြင်းအတွက် ချုပ်ဆိုထားသည့် Product Sharing Agreement အပေါ် ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အတူ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တဆင့် တင်ပြရန် လိုအပ်မည်ဖြစ်ပါသည်။

၆။ သို့ဖြစ်ပါ၍ Myanmar Royal Prestige Plantation Co., Ltd. (MRPP) မှ ဆီအုန်းစိုက်ပျိုး ထုတ်လုပ်ရေး အတွက် ဆီအုန်း စိုက်ပျိုးဧက ၅၀၀၀၀ တိုးချဲ့ စိုက်ပျိုးခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် လမ်းညွှန်မှုခံယူအပ်ပါသည်။

MYANMAR ROYAL PRESTIGE PLANTATION CO., LTD
No.30/A Room 9, YAW MIN GYI ST, DAGON T/S, YANGON, MYANMAR. TEL: 01-252123,01-250095
E-mail:pyisoergp@gmail.com,pyisoe-rgp@myanmar.com.mm
G.P Group

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

နေ့စွဲ၊ ၂၀၁၁ ခုနှစ်၊မတ်လ ၁၁ ရက်။

အကြောင်းအရာ။ ။ Myanmar Royal Prestige Platation Co., Ltd. (MRPP) လီမိတက်မှ တနင်္သာရီတိုင်းအတွင်း ဆီအုန်းစိုက်ဧက ၅၀၀၀၀ တိုးချဲ့ ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ။

၁။ အထက်ပါ ကိစ္စနှင့် စပ်လျဉ်း၍ Myanmar Royal Prestige Platation Co., Ltd. (MRPP) သည် တနင်္သာရီတိုင်း ဒေသကြီး မြိတ်ခရိုင် ၊ဘုတ်ပြင်းမြို့နယ်၊ မနိုးရုံးဒေသရှိ မြေဧက ၃၀၀၀၀တွင် ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ်ခြင်း လုပ်ငန်းများကို နိုင်ငံတော်နှင့် Product Sharing စနစ်ဖြင့် ဆောင်ရွက်ရန် ကော်မရှင်မှ ခွင့်ပြုမိန့်အမှတ် ၄၅၆/၂၀၁၁ ဖြင့် ခွင့်ပြုခဲ့ပါသည်။

၂။ မိမိတို့အနေဖြင့် စီမံကိန်းလုပ်ငန်းများကို အချိန်နှင့်တပြေးညီ အကောင်အထည်ဖော် ဆောင်ရွက်လျှက်ရှိပြီး ယခုအခါ ကော့သောင်း ကားလမ်းမကြီးမှ မိမိတို့စိုက်ခင်းသို့ လမ်းဖောက်လုပ်ခဲ့ရာ မကြာမီရက် ပိုင်းအတွင်းမိမိတို့ စီမံကိန်း တည်ရှိရာ မြိတ်ခရိုင် ဘုတ်ပြင်းမြို့နယ် မနိုးရုံးဒေသသို့ ရောက်ရှိတော့မည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

၃။ ဆီအုန်းများ စိုက်ပျိုးရန်အတွက် တောခုတ်ထွင် ရှင်းလင်းမှု ပြီးစီးသည့် ဧကမှာ ၉၉၄ ဧကဖြစ်၍ မြေချစိုက်ပျိုးသည့် အပင်မှာ ၁၂၀၀၀၀ ရှိပြီဖြစ်ပါကြောင်း၊ စိုက်ပျိုးပြီးသည့် ဧကမှာ ၃၀၀ ဖြစ်ပါကြောင်း၊ ဖေါက်လုပ်ပြီးလမ်း (၁၅)မိုင်နှင့် တံတား ၃စင်း တည်ဆောက်ပြီး ဖြစ်ပါကြောင်း၊ တင်သွင်းပြီးသည့် ယန္တရားမှာ (၈)စီးဖြစ်၍ Buldozer (၄)စီး၊ Excavator (၂)စီး၊ Logging Tourk ၁စီးနှင့် Loader (၁)စီး စုစုပေါင်း ယန္တရားမှာ (၈)စီးဖြင့် လုပ်ငန်းများကို ဆောင်ရွက်နေပါကြောင်း၊ လမ်းဖောက်လုပ်ပြီးစီးမှု၊ ဆီအုန်းပျိုးပင်စိုက်ပျိုးမှု အခြေအနေများကို ဓါတ်ပုံများ ပူးတွဲ၍ တင်ပြအပ်ပါသည်။

MRPP (second)

11.3.11

MYANMAR ROYAL PRESTIGE PLANTATION CO., LTD
[illegible] Room 9, [illegible] YANGON, MYANMAR. TEL [illegible]
E-mail: [illegible]@myanmar.com.mm

၄။ ယခုရရှိထားသော ဆီအုန်းစိုက်ဧက ၅၀၀၀၀ မှာ ဆီချောစက်ရုံ တည်ဆောက်ရန်အတွက် လုံလောက်မှု မရှိပါသောကြောင့် မိမိတို့လုပ်ငန်းအနေဖြင့် ဆီချောဆီသန့် စက်ရုံတည်ဆောက်နိုင်ရန် စိုက်ဧက ထပ်မံတိုးချဲ့ရန်နှင့် ဆီသန့်စက်ရုံအတွက် မြေဧကများ လိုအပ်ပါသည် ။

၅။ သို့ဖြစ်ပါ၍ မိမိတို့၏ ကုမ္ပဏီအား ဆီအုန်းစိုက်ဧက ၅၀၀၀၀ ထပ်မံတိုးချဲ့ခွင့်ပြုပါရန် နှင့် ဆီအုန်းစိုက်ဧက ၅၀၀၀၀ တိုးချဲ့ခွင့်ပြုပါရန် တင်ပြခြင်းကို လယ်ယာ စိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနမှ တဆင့် မြန်မာ့စက်မှု သီးနှံဖွံ့ဖြိုးရေးလုပ်ငန်း ၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေး ဌာန၏ သဘော တူညီချက်ဖြင့် ဆက်လက်တင်ပြမည်ဖြစ်ပါကြောင်း နှင့် အခြားဌာနဆိုင်ရာ လိုအပ်ချက်များကိုလည်း ဆက်လက်တင်ပြမည် ဖြစ်ပါကြောင်း၊ တင်ပြအပ်ပါသည်။

၆။ ပူးတွဲတင်ပြချက်

(က) ဆီအုန်းစိုက်ဧက တိုးချဲ့မည့်မြေပုံ

(ခ) လုပ်ငန်းဆောင်ရွက်မှု ဖော်ပြသည့် ဓါတ်ပုံ

U Pyi Soe
Director
Myanmar Royal Prestige Plantation Co., Ltd.

G.P Group

# MYANMAR ROYAL PRESTIGE PLANTATION CO., LTD

No.30/A Room 9, YAW MIN GYI ST, DAGON T/S, YANGON, MYANMAR. TEL: 01-252123,01-250095

E-mail:pyisoergp@gmail.com,pyisoe-rgp@myanmar.com.mm

## ROYAL GOLDEN PEARL INDUSTRY CO.,(MRPP) ၏ ဧက (၅၀၀၀၀)တွင် ဆောင်ရွက်ဆဲလုပ်ငန်းများ (၂၀၁၁ - မတ်လ)

(က) ပျိုးခင်း / စိုက်ခင်းလုပ်ငန်းများ
- (၁) ပျိုးခင်းရှိ အရွယ်မီပျိုးပင် (မြေချစိုက်ပျိုးရန်အသင့်) - ၁၂၀၀၀၀ ပင်
- (၂) စိုက်ပြီးဧက (၃၀၀)ဧက
- (၃) ဖောက်လုပ်ပြီးလမ်း(၁၇)မိုင်တွင် တံတား (၃)စီးပါ
- (၄) ပျိုးခင်းလေဘာစရိတ် (၁)လ (၁၅)သိန်း
- (၅) အဆောက်အဦ(၄)လုံး၊ တစ်လုံးလျှင် သိန်း(၇၀) (၄)လုံးအတွက် (၂၈၀)သိန်း

(ခ) မြန်မာ/နိုင်ငံခြားသား ဝန်ထမ်းများစာရင်း
- (၁) စက်ယန္တယားမောင်း (၁၀)ဦး
- (၂) စက်ပြင် (၁)ဦး
- (၃) အထွေထွေဝန်ထမ်း (၂)ဦး
- (၄) ရုံးဝန်ထမ်း (၄)ဦး
- (၅) နိုင်ငံခြားသားအကြံပေး နှင့် ဝန်ထမ်း (၈)ဦး စာရင်းပူးတွဲပါ

(ဂ) ယန္တယား
- (၁) တင်သွင်းရောက်ရှိပြီး ယန္တယား (၈)စီး
  - (က) Recondi Tioned Bulldozer (၄)စီး
  - (ခ) Recondi Tioned Excavator (၂)စီး
  - (ဂ) Recondi Tioned Loggi Ng Truck (၁)စီး
  - (ဃ) Recondi Tioned Wheel Loader (၁)စီး
- (၂) လိုင်စင်လျှောက်ထားဆဲယန္တယား (၂)စီး
  - (က) Logging Truck (၁)စီး USD 46000
  - (ခ) Wheel Loader (၁)စီး USD 45000

(ဃ) လူမှုရေးနှင့်ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများ
- (၁) တနင်္သာရီတိုင်းဒေသကြီးပညာရေးအလှူငွေလှူဒါန်း (၂၀၀၉-၂၀၁၀) - ၅၀ သိန်း
- (၂) တနင်္သာရီတိုင်းဒေသကြီးစစ်မှုထမ်းဟောင်းအိမ်ယာဆောက်ရန်လှူဒါန်းခြင်း - ၆၀ သိန်း
- (၃) ကျေးရွာကောင်စီရုံးနှင့်ဆေးခန်းများဆောက်လုပ်လျက်ရှိပြီးအခြားလုအပ်သောပစ္စည်းများကိုလည်း ဆက်လက်ပံ့ပိုးလျက်ရှိပါသည်။

ကန့်သတ်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၃/၂၀၀(နိုင်ငံခြား)( ၃၄ /၂၀၁၁)
ရက်စွဲ၊ ၂၀၁၁ခုနှစ်၊ဇန်နဝါရီလ ၂၄ ရက်

သို့
**ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)**
**စစ်ဆင်ရေးဌာနခွဲ။**

အကြောင်းအရာ။ <u>နိုင်ငံခြားသား ခရီးစဉ် လုံခြုံရေး ကိစ္စ။</u>

၁။ တင်ကြာဝင်းတာချာပါကိစ္စနှင့်ပတ်သက်၍ ဝတ်စဝ်ဧရွှပုလဲစက်မှုစုပ်စနီး ကုမ္ပဏီ လီမိ တက် မှ အောက်ဖော်ပြပါ မလေးရှားနိုင်ငံသား စိုက်ပျိုးရေးပညာရှင် Mr. Ng Chee Joong ဦးဆောင်သော အဖွဲ့ဝင် (၁၀) ဦး နှင့် ကုမ္ပဏီမှ တာဝန်ရှိသူတို့သည် ပူးတွဲပါ ခရီးစဉ်အတိုင်း (၂.၂.၂၀၁၁) ရက်နေ့မှ (၁၈.၃.၂၀၁၁) ရက်နေ့အထိ ခရီးထွက်ခွာမည် ဖြစ်ပါသည်။

| စဉ် | အမည် | နိုင်ငံသား | မှတ်ပုံတင်/ ပတ်စ်ပို့အမှတ် | ရာထူး |
|---|---|---|---|---|
| (က) | Mr. Ng Chee Joong | မလေးရှား | A-16411930 | Plantation Adviser |
| (ခ) | Mr. Sekudan Anak Galang | ။ | K-22897210 | Plantation Adviser |
| (ဂ) | Mr. Enting Anak Ensang | ။ | K-20799136 | Plantation Adviser |
| (ဃ) | Mr. Kong Fook Loi | ။ | K-16301466 | Plantation Adviser |
| (င) | Mr. Stephen Emang Madang | ။ | K-23000948 | Plantation Adviser |
| (စ) | Mr. Bibit Anak Sanda | ။ | K-22898747 | Plantation Adviser |
| (ဆ) | Mr. Rumpang AnAk Ujai | ။ | K-23130549 | Plantation Adviser |
| (ဇ) | Mr. Bana Anak Usit | ။ | K-18864820 | Plantation Adviser |
| (ဈ) | Mr. Pengarah Anak Bajing | ။ | K-23129784 | Plantation Adviser |
| (ည) | Mr. Louis Anak Pantin | ။ | K-18208441 | Plantation Adviser |
| (ဋ) | ဦးမင်းသူကျော် | မြန်မာ | ၁၄/ဂခမ(နိုင်) ၁၂၁၁၇၇ | မန်နေဂျာ |

၂။ ဖော်ပြပါ ကျွမ်းကျင်ပညာရှင်အဖွဲ့သည် မြိတ်ခရိုင်အတွင်းရှိ စီမံကိန်းဧရိယာများ သို့ ကွင်းဆင်း လေ့လာရန်အတွက် ခရီးထွက်ခွာခြင်း ဖြစ်ပါသည်။

ကန့်သတ်

သက်တမ်းတိုး

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (ယာယီ)

အမှတ် ၁၃၈၇ / ၂၀၀၈ –၂၀၀၉

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ တော်ဝင်ရွှေပုလဲစက်မှုလုပ်ငန်းကုမ္ပဏီ လီမိတက် အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၀၉ နှစ်၊ ဇန်နဝါရီ လ၊ ၂၃ ရက်နေ့တွင် ယာယီမှတ်ပုံတင်ခွင့် ပြုလိုက်သည်။

( အေးကို )

ညွှန်ကြားရေးမှူးချုပ်

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန

ကုမ္ပဏီများမှတ်ပုံတင်အရာရှိ

ကုမ္ပဏီများမှတ်ပုံတင်ရုံး

စက်မှု/ထုတ်လုပ်မှု
INDUSTRIAL PRODUCTION

THE GOVERNMENT OF THE UNION OF MYANMAR

MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

## CERTIFICATE OF INCORPORATION (TEMPORARY)

NO. 1387 of 2008 - 2009

I hereby certify that ROYAL GOLDEN PEARL INDUSTRY COMPANY LIMITED is this day incorporated under the Myanmar Companies Act and that the company is Limited.

Temporarily given under my hand at Nay Pyi Taw this TWENTY-THIRD day of JANUARY, TWO THOUSAND AND NINE.

( AYE KO )

DIRECTOR GENERAL

Directorate of Investment and Company Administration

Registrar of Joint Stock Companies

Companies Registration Office

စက်ရုံအလုပ်ရုံ တည်ရှိရာအရပ်သည် စက်မှုလက်မှုဇုန်ကွက် ဖြစ်စေရမည်။ (သို့မဟုတ်) လူနေရပ်ကွက်နှင့်ကင်း လွတ်ရာအရပ်၌ဖြစ်စေရမည်။

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၄၅၆ / ၂၀၁၁  ၂၀၁၁ခုနှစ်၊ဖေဖော်ဝါရီလ [illegible] ရက်

ပြည်ထောင်စု မြန်မာနိုင်ငံတော် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ (၁၀) အရ ဤခွင့်ပြုမိန့်ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်က ထုတ်ပေးလိုက်သည်-

(က) ကမကထပြုသူ၏အမည် MR. TAN GHEE KIAT

(ခ) မည်သည့် နိုင်ငံသား MALAYSIAN

(ဂ) နေရပ်လိပ်စာ NO.7, LORONG TEMPINIS, KANAN DUA LUCKY GARDEN BANGSAR, 59100, KUALA LUMPUR, MALAYSIA

(ဃ) ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ PRESTIGE PLATFORM SDN.,BHD, SUITE16-08, LEVEL 16, WISMA UOA II, 21, JALAN PINANG 50450 KUALA LUMPUR, MALAYSIA

(င) ဖွဲ့စည်းရာအရပ် KUALA LUMPUR, MALAYSIA

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်ခွင့်ပြုသည့်အရပ်ဒေသ(များ) ဘုတ်ပြင်းမြို့နယ်၊ မြိတ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီး

(ဇ) နိုင်ငံခြားမတည်ငွေရင်း အမေရိကန်ဒေါ်လာ ၄၀ သန်း

(ဈ) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ ကုမ္ပဏီဖွဲ့စည်းပြီး ၆နှစ်အတွင်း

(ည) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ ၄၀ သန်းနှင့် ညီမျှသော မြန်မာကျပ်ငွေ

(ဋ) ရင်းနှီးမြှုပ်နှံခွင့်ပြုသည့် သက်တမ်း ၃၀ နှစ်

(ဌ) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် စီးပွားရေး အဖွဲ့အစည်းအမည် MYANMAR ROYAL PRESTIGE PLANTATION CO., LTD.

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်

သွင်းကုန် ( ၁ )

Sheet No.

Continuation Sheet ဆက်လက်အသုံးပြုရန် စာရွက်

Original
မူရင်း

DEPARTMENT OF BORDER TRADE
နယ်စပ်ကုန်သွယ်ရေး ဦးစီးဌာန

IMPORT LICENCE
သွင်းကုန်လိုင်စင်

1. Importer (Name & Address)
Royal Golden Pearl Industry Co. Ltd.
No.30/A, Room No. 9, Yaw Min Gyi Street, Yaw Min Gyi Ward ,Dagon T/S,
Yangon,Myanmar

7. Licence (No & Date)
8 Q IL I 10_11 1974 02/09/2010

2. Importer Registration No. 23069

| 13.No | 14.Hscode | 15.Description of Goods | 16.UnitCode | 17.UnitPrice | 18.Quantity | 19.Value(USD) |
|---|---|---|---|---|---|---|
| 1 | 842950 | RECONDITIONED BULLDOZER<br>MODEL: 2003<br>WEIGHT: 17000KG (EACH) (17TON)<br>BRAND NAME: CATERPILLAR<br>ENGINE MODEL: D6DLS<br>ENGINE POWER: 155HP @ 1900RPM<br>ENGINE NO: 10Z33316<br>COUNTRY OF ORIGIN: JAPAN | Unit | 66500.00 | 1 | 66500.0000 |
| 2 | 842950 | RECONDITIONED EXCAVATOR<br>MODEL: 2003<br>WEIGHT: 19700KG (19.7TON)<br>BRAND NAME: CATERPILLAR<br>ENGINE MODEL: 320C<br>ENGINE POWER: 128HP<br>ENGINE NO: 7JK[illegible]<br>COUNTRY OF ORIGIN: USA | Unit | 88100.00 | 1 | 88100.0000 |
| 3 | 842950 | RECONDITIONED WHEEL LOADER<br>MODEL: 2003<br>WEIGHT: 20000KG (20TON)<br>BRAND NAME: CATERPILLAR<br>ENGINE MODEL: 966<br>ENGINE POWER: 235HP<br>ENGINE NO: 10Z34015<br>COUNTRY OF ORIGIN: CHINA | Unit | 43000.00 | 1 | 43000.0000 |
| | | TOTAL | | | | 197600.0000 |

DEPARTMENT OF BORDER TRADE MYANMAR

FROM :ROYAL GOLDEN PEARL CO.LTD FAX NO. :95 1 250095 Mar. 24 2005 02:06AM P2

... cation Sheet ...အသုံးပြုရန် ...

**DEPARTMENT OF BORDER TRADE**
နယ်စပ်ကုန်သွယ်ရေး ဦးစီးဌာန

**IMPORT LICENCE**
သွင်းကုန်လိုင်စင်

1. Importer (Name & Address)
Royal Golden Pearl Industry Co, Ltd.
No.30/A, Room No. 9, Yaw Min Gyi Street, Yaw Min Gyi Ward ,Dagon T/S,
Yangon,Myanmar

7. Licence (No & Date)
B Q IL 1 10_11 1816 20/08/2010

2. Importer Registration No. 23069

| 13.No | 14.Hscode | 15.Description of Goods | 16.UnitCode | 17.UnitPrice | 18.Quantity | 19.Value(USD) |
|---|---|---|---|---|---|---|
| 1 | 8429401000 | RECONDITIONED BULLDOZER<br>MODEL:2003<br>WEIGHT:17000KG (EACH) (17TON)<br>BRAND NAME:CATERPILLAR<br>ENGINE MODEL:D6DLS<br>ENGINE POWER:155HP @ 1900RPM<br>ENGINE NO:10Z19875,10Z80088,10Z30893<br>COUNTRY OF ORIGIN:JAPAN | Unit | 66500.00 | 3 | 199500.0000 |
| 2 | 8429401000 | RECONDITIONED EXCAVATOR<br>MODEL:2003<br>WEIGHT:19700KG (19.7TON)<br>BRAND NAME:CATERPILLAR<br>ENGINE MODEL:320C<br>ENGINE POWER:138HP<br>ENGINE NO:7JK69347<br>COUNTRY OF ORIGIN:USA | Unit | 88100.00 | 1 | 88100.0000 |
| 3 | 8429401000 | RECONDITIONED LOGGING TRUCK<br>LEFT HAND DRIVE DIESEL<br>MODEL:2003<br>WEIGHT:16,200 KG (16.2TON)<br>BRAND NAME:MERCEDES BENZ<br>ENGINE MODEL:893817<br>ENGINE POWER:261KW @ 2300RPM<br>ENGINE NO:893817<br>COUNTRY OF ORIGIN:GERMANY | Unit | 46000.00 | 1 | 46000.0000 |
| | | TOTAL | | | | 333600.0000 |

2018 | 10

